အရသာကို ဖြည့်စွက်ပေးသည့် ပစ္စည်းအဖြစ် စားသောက်ကုန်လုပ်ငန်း၌ အသုံးပြုကြပါသည်။ ထို့ပြင်သားငါးများ၊ ဒိန်ခဲထုပ် အစားအသောက်များ၊ ပြောင်းဖူးပေါက်ပေါက်ဆီနှင့် ဒိန်ခဲများတွင်လည်း အရောင်တင်အမှုန့်အဖြစ် အသုံးပြုကြပါသည်။ ထို့နောက် ဆေးဝါးထုတ်လုပ်ရာတွင်လည်း ငရုတ်ဆီအစိုဖြစ်စေ၊ အခြောက်ဖြစ်စေ အသုံးပြုလေ့ရှိပါသည်။ ထို့ပြင် ယခင်ကပင် ဇီဝသတ္တိဓာတ်ပေါင်းများဖြစ်သည့် အပုပ်နံ့ခံနိုင်သည့် ပိုးသတ်ဆေးများ၊ flavonoias, phenols, carotenoids, capsaicinoids နှင့် ဗီတာမင်အားဆေးများတွင် ထည့်သွင်းဖော်စပ်ပါသည်။ ယင်းအရောင်တင်ငရုတ်ပွဖြင့် ပစ္စည်းနှစ်မျိုးဖော်စပ်ပါသည်။ *အရည်အသွေးကောင်းသော အနီရောင်ဂျင်း၊ ငရုတ်မှုန့်နှင့် *အရောင်တင်ငရုတ်ပွဆီ တို့ဖြစ်သည်။ အထက်ဖော်ပြပါ ပစ္စည်းများကို အဓိကတင်ပို့သည့် နိုင်ငံများမှာ တရုတ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့ဖြစ်သည်။

ဆင်းရဲသော တောင်သူမိသားစု ၂,၀၀၀ မှ ၃,၀၀၀ ခန့်တို့သည် အထက်ပါလုပ်ငန်းမှ တိုက်ရိုက်အကျိုးခံစားခွင့်ရရှိကြပါမည်။

**နနွင်း**

နနွင်း (Turmeric) ဆိုသည်မှာ ပါရှင်းဝေါဟာရ (Saffron) မှ ဆင်းသက်လာခြင်းဖြစ်ပြီး လိမ္မော်ရောင်သမ်းသည့် အဝါရောင်အဆင်းရှိသည်။ ဟင်းချက်ရာ၌ ခတ်သောပစ္စည်းဖြစ်သည်။ တောရိုင်းပင်မဟုတ်ဘဲ အိမ်ခြံမြေတွင် ပေါက်ရောက်နိုင်သော အပင် ဖြစ်သည်။ အိန္ဒိယနိုင်ငံသည် ကမ္ဘာ့သို့ နနွင်းတင်ပို့သည့် အဓိကနိုင်ငံ ဖြစ်သည်။ ကမ္ဘာ့ဈေးကွက်တွင် အိန္ဒိယနနွင်း ၆၀% လွှမ်းမိုးထားသည်။ အခြားနိုင်ငံများအနက် နနွင်းဈေးကွက်တွင် တရုတ်က ၈% နှင့် မြန်မာနိုင်ငံမှ ၄% တင်ပို့ရောင်းချသည်။ အိန္ဒိယသည် ဈေးကွက်သို့ တင်ပို့သည့် နနွင်း တန်ချိန်သည် ၁၈၀,၀၀၀ ရှိသည်။

လွန်ခဲ့သော နှစ်များစွာအတွင်း နနွင်း၏ အကျိုးကျေးဇူးကို ကြိမ်ဖန်များစွာ စူးစမ်းလေ့လာခဲ့ကြသည်။ ကင်ဆာရောဂါကို တိုက်ဖျက်ကာကွယ်နိုင်သည့် ယင်း၏သတ္တိကို လေ့လာကြည့်ကြပါသည်။ နနွင်းတွင် ပါဝင်သည့် Curcumine ဓာတ်သည် အသားယောင်ရမ်းခြင်းကို တားဆီးကာကွယ်နိုင်သည့် သတ္တိရှိသောကြောင့် ယောင်ရမ်းသည့် ဝေဒနာမျိုးစုံအပြင် အဆစ်အမြစ်ယောင်ခြင်း၊ အရွတ်ယောင်ခြင်းနှင့် ထိခိုက်ဒဏ်ရာ ရရှိခြင်းတို့ကို ကုသရာ၌ အလွန်ထိရောက်ပါသည်။ နနွင်းစိုက်လျှင် ဆင်းရဲသော တောင်သူ ၂,၀၀၀ ခန့်သည် ပရောဂျက် ကာလအတွင်းနှင့် နောင်းကာလများတွင်ပါ အကျိုးကျေးဇူး ခံစားကြရပါမည်။

နနွင်းတွင် ပါဝင်သော အံ့သြဖွယ်ဓာတ်ပစ္စည်းများကြောင့် ကမ္ဘာ့ဈေးကွက်တွင် ဝယ်လိုအား မြင့်တက်နေမည်သာဖြစ်ရာ HDDES သည် မြန်မာနိုင်ငံသို့ ဝင်ရောက်ကာ ထိုအခွင့်အရေးကို အသုံးချနိုင်အောင် ကြိုးပမ်းဆောင်ရွက်သွားမည် ဖြစ်သည်။

**မြင်းခွာရွက် (Centella Asiatica) နှင့် Moronaga ရွက် (ဂျပန်အခေါ်အဝေါ်ဖြစ်သည်။)**

ထိခိုက်ဒဏ်ရာရရှိ၍ အနာတရဖြစ်ခြင်းကို အမြန်ပျောက်ကင်းစေသောကြောင့် ကျန်းမာရေးအတွက် အကျိုးရှိသဖြင့် မြင်းခွာရွက်ကို အလွန်စိတ်ဝင်စားကြသည်။ အရေပြားဝေဒနာများကို ကာကွယ်စောင့်ရှောက်ပေးခြင်း၊ အာရုံကြောများ ပုံမှန်ဖြစ်စေခြင်း၊ မူးဝေခြင်းကို သက်သာစေခြင်း၊ နှလုံးနှင့်သွေးလည်ပတ်သည့် စနစ်ကို ကာကွယ်ပေးခြင်း စသည့်ဝေဒနာများ ကုသရာ၌ အသုံးဝင်သောကြောင့် မြင်းခွာရွက်ကို လူအများစိတ်ဝင်စား ကြသည်။ အံ့သြဖွယ်ရာ ကျန်းမာရေးအကျိုးပြုသဖြင့် ကမ္ဘာ့ဝယ်လိုအားမှာ အလွန်မြင့်မားသည်။ သို့ရာတွင် ပစ္စည်းရရှိနိုင်မှု အကန့်အသတ်ရှိသည်။ လိုသလောက် မရနိုင်ပေ။ HDDES သည် မြန်မာနိုင်ငံ၌ မြင်းခွာရွက် ရရှိနိုင်ကြောင်း သိရှိထားသဖြင့် ဆင်းရဲသော ရွာသူရွာသားများနှင့် လက်တွဲ၍ မြင်းခွာရွက် ဝယ်ယူရန်နှင့် ယင်းဆင်းရဲသော ရွာသူရွာသားများအဖို့လည်း အလုပ်ကဏ္ဍသစ်မှ ဝင်ငွေရရှိရေး ဖန်တီးပေးရန် စဉ်းစားဆုံးဖြတ်ထားပါသည်။

ထိုနည်းတူ မြင်းခွာရွက်နှင့် အလားတူ Moronga ရွက် (ဂျပန်အခေါ်အဝေါ်ဖြစ်သည်) ကိုလည်း တောင်သူများက HDDES အားပေးသွင်းနိုင်လျှင် ယင်းတို့အတွက် ဝင်ငွေရလမ်းတစ်ခု ပေါ်လာဦးမည် ဖြစ်သည်။ လောလောဆယ်တွင် ထိုအရွက်ကို စီးပွားဖြစ် ရောင်းဝယ်ကြသည်ကို မတွေ့ရှိရသေးပေ။

ခြုံငုံသုံးသပ်မည်ဆိုပါက ဆင်းရဲသော တောင်သူမိသားစု ၅,၀၀၀ နှင့် အလုပ်အကိုင် အခွင့်အလမ်း နည်းပါးကြသော တောင်သူတို့သည် အဆိုပါ ဆေးရွက်နှစ်မျိုးစလုံးကို ဆွတ်ခူးပေးသွင်းခြင်းအားဖြင့် စီးပွားရေး အခွင့်အလမ်း ပွင့်၍ အကျိုးကျေးဇူး ဖြစ်ထွန်းကြမည် ဖြစ်ပါသည်။

**စန္ဒကူးနံ့သာပင်**

ရေရှည်မဟာဗျူဟာအဖြစ် ကုမ္ပဏီသည် စန္ဒကူးနံ့သာပင်များ စိုက်ပျိုးရန် အာရုံစိုက် ဆောင်ရွက်သွားပါမည်။ ဤသို့ စဉ်းစားခြင်းမှာ မြေပြင်လွင်တီးခေါင်ဖြစ်ခြင်းနှင့် မြေပြိုခြင်းတို့မှ ကာကွယ်နိုင်ရန် ဖြစ်သည်။ ရေတိုမဟာဗျူဟာ အနေဖြင့် ကုမ္ပဏီသည် အိမ်ခြံမြေတွင် သစ်ပင်စိုက်ပျိုးခြင်း အစီအစဉ်ချမှတ် ဆောင်ရွက်သွားပါမည်။ ယင်းစိုက်ပျိုး လုပ်ငန်းတွင် ဆင်းရဲသော တောင်သူများနှင့် အလုပ်အကိုင် အခွင့်အလမ်းနည်းပါးသော တောင်သူများအား စန္ဒကူး ပင်များ ဖြန့်ဝေပေးပြီး ယင်းတို့၏ ခြံဝင်းအတွင်း စိုက်ပျိုးစေပြီး အစိုးရနှင့် ရေရှည်လက်တွဲ ဆောင်ရွက်နိုင်စေရန်နှင့် စန္ဒကူးပင်များ စိုက်ပျိုးခြင်းအားဖြင့် သစ်တောပြုန်းတီးမှုကို ကာကွယ်နိုင်စေပါသည်။ စန္ဒကူးပျိုးခင်းများနှင့် စန္ဒကူးပင် စိုက်ပျိုးရေး အစီအစဉ်အား အကျိုးကျေးဇူး ဖြစ်ထွန်းစေမည် ဖြစ်ပါသည်။

***Project Description & Business Nature:***
***HDDES Natural Products (Myanmar) Ltd***

*By doing number of researches about the availability of supply sources, new political &climatic environment, availability of agro lands and government incentive/facilities, historical culture relationships and difficulty to source agro products in Sri Lanka, the Company has decided to branch out for the first time from Sri Lanka and set up and incorporate HDDES Natural Products (Myanmar) Ltd under the Myanmar Investment Laws, as a Plantation(farmer's land based ), Manufacturing and Trading unit. The project has identified Ginger Oil & Oleoresin, Vanilla Beans, Jasmine Fragrance, Paprika Oil & Oleoresin, Turmeric oil &Oleoresin, Gotu Kola, and Moringa leaves as the main value added products. Also, HDDES and Winrock International will aim at industry transformation, technical assistance and also to minimize the risk of farmer's earning throughout this project. HDDES Natural Products (Myanmar) Ltd will also be working closely with the Myanmar Ministry of Agriculture and Research Department, NGO's and Producer & Export Association to speed up transformation to benefit all. The manufacturing plant will be based in the Thilawa Industrial Zone (Plot No. 121/123, Thilawa Industrial Zone, Thanlyin-Kyauktan Township, Yangon Region, the Republic of the Union of Myanmar) Vanilla will be grown in Kayin, Kayah, (conflict areas) North Shan and Jasmine will be grown in Mondale and Naypyidaw. With the assistance of Winrock International, the necessary farmer's based land will be selected and arranged. (Please note the Company doesn't legally having rights to buy lands for plantation.) Only small lands available with the existing farmers and new farmers will be selected and planned for the above cultivation with the assistance of Winrock International and our technical support. In the long term, the Company will plan to lease lands with the assistance of our local investor for the cultivations in future. As an initial step, one acre of the farm based land will be selected as a trail vanilla plantation in North Shan or other areas selected.*
*For all other agro products (Ginger, Chillies, and Turmeric & GotuKola) will be sourced from Myanmar farmer groups. HDDES Extracts has already bought Ginger (1,200,000 Kgs) and other products form Myanmar and necessary research and development been done to check the quality standard and it was perfect. Already Winrock International is involving with the Ginger farmers and groups to enhance their living standard and therefore our new Company could join with them to achieve the benefits to the society. At the beginning, we intend to bring key workers (Plant Manager, Supervisors and few skilled workers from Sri Lanka to run the plant in Myanmar. The required workers (male/female) will be recruited from Myanmar and will be given necessary training for them to understand the work more properly.*

*We intend to get banking facilities from the Sri Lankan bank , named Sampath Bank Plc. They have their own relationship office in Myanmar and already funded for big hotel project in Myanmar. They have already given approval for us, about the financing and also always encouraged us to move to Myanmar for a new manufacturing plant having seen the potential in the country.*

***Ginger***

*As demand for Ginger worldwide has increased (at 25% annually), described by one trader as "insatiable", there is an opportunity for growth in Ginger production and added value in Myanmar. It is estimated around 10,000 small farmers in 6 township of Sothern Shan, producing around 30,000 metric Tons of fresh ginger (90% of Myanmar production).Forty percent is sold to local and balance is exported as fresh or dried ginger.Ginger remains profitable for Value Chain for Rural Development but certain constraints to be addressed throughout the value chain. In general, the value chain needs to be become more market oriented, develop alternative and value added market channels and produce ginger to the specifications of the end markets. Therefore the Value Chain strategy supports development of an export-led ginger value chain that meets local demand for fresh ginger, builds*

*upon a base of raw products exports and expands the production in higher –value products tailored to end-market users.*
*(Source: Ginger Value Chain for Rural Development –USAID). Having seen the above opportunities, will join HDDES Natural Products (Myanmar) Ltd (HDDESNP) hand to achieve the said objectives. For the first year of operation, we will buy 1,080 MT of Ginger (6%) from the rural farmers. Due to this new industry transformation of raw ginger to value added end product, the new 3,000 farmers will join hand with us.*

***Vanilla Beans (Black Gold)***

*Having seen the world market potential , increasing demand for and short supply of natural vanilla beans and ideal climatic condition in, HDDESNP will expect to grow them in North Shan, Kayin and Kayah ,Initially with the assistance of Winrock International (USAID), HDDESNP will plan to grow raw vanilla cuts in 200 acres. HDDES will join hand with the farmers bases lands and with the assistance of Winrock International with their expertise knowledge, farmers land will be selected and motivated them to join with the project. The world market potential for the natural vanilla beans is about 4,000 MT and for the synthetic vanilla is about 50,000 MT. Due to the multinationals decision of moving to natural from synthetic the high demand been created and the short supply of the vanilla , the world market price has risen very sharply from US$ 200 to 600 per Kg. With the knowhow and the knowledge what we have gained to cultivate vanilla in Sri Lanka, the HDDESNP could transfer and join hand with Winrock International, farmers and farmer groups to cultivate the product in large scale in Myanmar. Therefore this product will be the star and future product to the Country in the near by future. Nearly 3,000 farmers, women and disadvantaged people will be benefited.*

*The planting of Vanilla in Myanmar will be one step of complete transformation of the entire farming industry to the new face. New farmers around 3,000 will directly benefited with high income from this lucrative new crop.*

***Jasmine Flowers***

*HDDES has assessed through field trips the availability in Myanmar of Jasmine to grow under HDDES specs. Current scenario is offering the flowers to Lord Buddha and the farmers/farmer groups will definitely join hand with us for this plantation. We plan to process Jasmine Absolute (Fragrance) from the flowers. The world market potential is very limited due to short supply of the flowers and India is the largest supplier to the market. Therefore with the join hand with Winrock International & with farmers' based lands, HDDESNP will plan to cultivate in first year 300 acres and the balance 200 acres in the second year. The areas of this cultivation will be in Mandalay and Naypyidaw. The world market price is very high for the jasmine fragrance and it will be above US$ 4,000/KG. This project will be another step to transform the entire flower industry into a business Model in Myanmar. The devoted Buddhist villagers will definitely join hands with Winrock International and HDDESNP too successfully to change the village economy to new chapter. Nearly 3,000 farmers will be benefited from this transformation.*

***Paprika /Chillies***

*As per our discussion with traders and farmer groups, HDDES has assessed the availability of Paprika at a very completive price and the quality of the same. As a trial we bought some Paprika and processed at our plant and tested it for the ingredient and it was very successful.*
*The genus Capsicum, which originates from Central and Southern America, belongs to the Solanaceae family and includes major types of chilli peppers. Paprika extracts are extensively used in food industry as natural flavouring but also as colouring agent for many foods such as spicy culinary, meat products, cheese food coatings, popcorn oil and cheeses. In addition, it is used dried or fresh in*

*various pharmacological preparations. It has a long history as a source of biologically active compounds, such as flavonoids, phenols, carotenoids, capsaicinoids and vitamins. There are two types of products prepared: • Oleoresin capsicum good quality red pepper: • Paprika extract. The main world suppliers are China and India for the above products.*

*Newly 2,000 to 3,000 poor family farmers will directly benefit from the above.*

***Turmeric***

*Turmeric is derived from the Persian word for 'Saffron ", the yellow orange color used to make curry, a domesticated plant rather not wild. India is a major exporter to the world, sharing a world market of 60% .Also among many others, China has a share of world market of 8% and Myanmar 4%. India has an annual production of 180,000 tons of cured turmeric.*

*Over the past several years, numerous studies have emerged on the benefits of turmeric and its anti-cancerous preventive properties. Curcumine which is present in turmeric [Curcuma Longa] is a powerful anti-inflammatory and Is a very effective in treating all kinds of inflammatory diseases as well as arthritis, tendinitis, injuries. Nearly 2,000 poor farmers will be benefited during the project time and subsequent stage.*

*The world demand will be rising due the amazing properties in Turmeric and therefore HDDES has decided to use it as an opportunity to enter into the Myanmar.*

***Gotu Kola (Centella Asiatica) & Moronaga Leaves***

*The most interesting health benefits of gotu kola include its ability to speed wound healing, aid in skin care, boost cognition, soothe nervous disorders, treat respiratory issues, reduce toxicity, protect the heart and heal the circulatory system. Due to the amazing medicine benefits, the world demand is very high and the availability of the product is limited. HDDES already seen the potential of availability in Myanmar and decided to join hand with the poor villagers to buy the required products and them to earn for that as a new avenue.*

*Similarly, new income avenue will be available to farmers by supplying the Moronga Leaves to HDDES. Currently the leaves been never used for any commercial purposes.*

*Overall, 5,000 poor families and disadvantaged people will be benefited by supplying of both types of leaves amply available in the country.*

***Sandalwood Trees***

*As a long term strategy the company will focus on plantation of sandalwood trees. This to prevent desertification and land slides. As a short term strategy the new company will promote home garden tree planting programme in which, distributing some sandalwood plants to poor farmers/disadvantaged people for them to grow simply at their home garden then at long term work with government to prevent of deforestation by introducing sandalwood nurseries and planting programs.*

**HDDES Natural Products (Myanmar) Ltd**

**Project Operation and Description**

## General

By doing number of researches about the availability of supply sources, new political & climatic environment, availability of agro lands and government incentive/facilities, historical culture relationships and difficulty to source agro products in Sri Lanka, the Company has decided to branch out for the first time from Sri Lanka and set up and incorporate HDDES Natural Products (Myanmar) Ltd under the Myanmar Investment Laws, as a Plantation (farmer's land based), Manufacturing and Trading unit. The project has identified Ginger Oil & Oleoresin, Vanilla Beans, Jasmine Fragrance, Paprika Oil & Oleoresin, Turmeric oil &Oleoresin, Gotu Kola, and Moringa leaves as the main value added products. Also, HDDES Natural Products (Myanmar) Ltd will aim at industry transformation, technical assistance and also to minimize the risk of farmer's earning throughout this project. HDDES Natural Products (Myanmar) Ltd will also be working closely with the Myanmar Ministry of Agriculture and Research Department, Winrock International, NGO's and Producer & Export Association to speed up transformation to benefit all.

## New Manufacturing Unit

The new manufacturing plant will be based in the Thilawa Industrial Zone. Vanilla will be grown in North Shan and Jasmine will be grown in Mondale and Naypyitaw. The total cost of the Manufacturing Unit will be US$ 3,089,930, consist of US$ 1,305,000 for Land & Buildings, US$ 1,784,930 for Plant & Machineries and electrical installation, Modernised Distillation Unit, Extraction Unit (Solvent Base) for Ginger, Chillies, Garlic and Turmeric. In addition to the above separate curium crystallisation unit, Blending unit, Preparatory Unit and Jasmine Distillation (Small) will be installed in Myanmar. The total project cost will be about US$ 5,492,558.

At the beginning, we intend to bring key workers (Plant Manager, Supervisors and few skilled workers from Sri Lanka to run the plant in Myanmar. The required workers (male/female) will be recruited from Myanmar and will be given necessary training for them to understand the work more properly.

## Supply Chain and Value Chain

### Ginger, Vanilla, Turmeric, Chillies, Jasmine Flower.

With the assistance of Farmer Associations, Unions and with the help of Winrock International, the necessary farmer's based land will be selected and arranged (Please note the Company doesn't legally having rights to buy lands for plantation). The former Company has already identified main suppliers in Myanmar for their product and already bought very substantial quantities of Ginger. Only small lands available with the existing farmers and new

farmers will be selected and planned for the above cultivation with the assistance of Winrock International. In the long term, the Company will plan to lease lands with the assistance of our local investor for the cultivations in future.

For all other agro products (Ginger, Chillies, and Turmeric & GotuKola) will be sourced from Myanmar farmer groups. HDDES Extracts has already bought Ginger and other products form Myanmar and necessary research and development been done to check the quality standard and it was perfect.

It is estimated around 10,000 small farmers in 6 townships of Sothern Shan, producing around. In general, the value chain needs to be become more market oriented, develop alternative and value added market channels and produce ginger to the specifications of the end markets. Therefore the Value Chain strategy supports development of an export-led ginger value chain that meets local demand for fresh ginger, builds upon a base of raw products exports and expands the production in higher –value products tailored to end-market users.

**Vanilla Beans (Black Gold)**

Having seen the world market potential, increasing demand for and short supply of natural vanilla beans and ideal climatic condition in, HDDES Natural Products (Myanmar) Ltd will expect to grow them in North Shan. Initially with the assistance of Winrock International (USAID), HDDES will plan to grow raw vanilla cuts in 200 acres. HDDES will join hand with the farmers bases lands and with the assistance of Winrock International with their expertise knowledge, farmers land will be selected and motivated them to join with the project.

**Jasmine Flowers**

HDDES has assessed through field trips the availability in Myanmar of Jasmine to grow under HDDES specs. Current scenario is offering the flowers to Lord Buddha and the farmers/farmer groups will definitely join hand with us for this plantation. We plan to process Jasmine Absolute (Fragrance) from the flowers. Lands, HDDES will plan to cultivate 500 acres. The areas of this cultivation will be in Mandalay and Naypyidaw.

**Paprika /Chillies & Turmeric**

From the identified farmer groups and farmer associations and directly from farmers, the necessary Gotu Kola (*Centella Asiatica*) & Moronaga Leaves shall be bought

**Technical Knowhow and New Innovative Products**

As, we mentioned earlier, HDDES Extracts (Pvt) Ltd will share all the technical assistance and all technical knowhow with the new employees of the new Company of M/s HDDES Natural Products (Myanmar) Ltd. We will at the beginning recruit some high skilled workers at supervisory levels to Myanmar new Company and also will be recruiting large number of

Myanmar employees through out of the project period. With the assistance from our Technical foreign consultant and with our skilled workers, all the Myanmar employees could be trained for all the new technical knowhow and knowledge.

**Organic Certification, ISO 9000 & 220000 Requirements, GMP (Good Manufacturing Practices) requirements and GI (Geographical Indication) Certifications**

The all necessary technical assistance with the International Certification bodies shall be arranged and shall be taken for all the products, processing in Myanmar for the future operation. As mentioned earlier, the one of the main objective will be to promote more organic farming and organic products from Myanmar farmers and to fulfill the above requirements all the necessary cooperation and assistance shall be provided by the former company of M/s HDDES Extracts (Pvt) Ltd.

**Marketing of Products in the International Market and Selling & Distribution of Products to the Export Market from Myanmar**

At present the HDDES Extracts (Pvt) Ltd, the Sri Lankan Company is having very well recognized customer base in USA, Europe and Asia. In addition to the above the main Company of HDDEs Extracts (Pvt) Ltd is having its own subsidiary company, named M/s D'las International GMBH in Germany. Also this subsidiary company of M/s D'las International GMBH will be targeting Russia and Ukraine Market by having its own sales team , ware house and inventory value worth of US$ 1 million, keeping in the German warehouse. Through these arrangements, the all the products manufacturing in Myanmar shall be marketed and promoted in the Global market, without having any difficulty.

Also some semi finished value added products will be required further processing by the HDDES Extracts (Pvt) Ltd to getting into the export market and thereby, marketing of those products will be marketed through the former Company of HDDES Extracts (Pvt) Ltd, internationally.

**Operational Management of the Plant**

The necessary main personnel, including the Factory/Plant Manager, Technical Consultants, Production Supervisors (Few), Laboratory technicians, research & development scientist, Chief Executive officer/Finance consultant shall be recruited or transferred from the Sri Lankan Company of HDDES Extracts (Pvt) Ltd. The above team will do the all the other recruitments of the balance employees and do all the test runs and all other required capital and operational structures to commence the operation and continuing the operation smoothly.

**Financial Management, Cash Flow management & Risk Management**

All the necessary financial rules and regulations as per the Myanmar Investment Law and Myanmar Commercial Law will be followed, when recoding all the financial transactions. Further, the International Accounting Standard and Financial International Reporting Standard shall be followed and based on that, al the financial statements will be arranged.

Also all the fundamental financial management policies and risk analysis strategies will be followed. We intend to get banking facilities from the Sri Lankan bank, named Sampath Bank Plc. They have their own relationship office in Myanmar and already funded for big hotel project in Myanmar. They have already given approval for us, about the financing and also always encouraged us to move to Myanmar for a new manufacturing plant having seen the potential in the country.

Annexure (6-A)

# HDDES Natural Products (Myanmar) Limited

## ထုတ်ကုန်စာရင်းများ

- ပထမဦးစားပေး ထုတ်ကုန်များမှာ အောက်ပါအဓိကကုန်ကြမ်းများမှ လုပ်ကိုင်ဆောင်ရွက်ခြင်း ဖြစ်ပါသည်။

  1. ဂျင်း
  2. သစ်ခွ
  3. နနွင်း
  4. ငရုတ်ဆီ
  5. စံပယ်ပန်း
  6. သစ်ခွစေ့ (ရွှေမည်း)
  7. အရောင်တင်ငရုတ်ပွ
  8. မြင်းခွာရွက်နှင့် Moronaga (ဂျပန်အခေါ်အဝေါ်ဖြစ်ပါသည်)
  9. စန္ဒကူးနံ့သာပင်များ
  10. ကြက်သွန်ဖြူ

- ဒုတိယဦးစားပေး ထုတ်ကုန်စာရင်းများမှာ အောက်ပါကုန်ကြမ်းများကနေ ဆင်းသက်လာခြင်း ဖြစ်ပါသည်။

  1. သံပုရာသီးနှင့် ရှောက်သီး/သံပရိုသီး
  2. ပင်စိမ်းရွက်
  3. အခြားဟင်းခတ်အမွှေးအကြိုင်များ
  4. သရက်သီး၊ ငှက်ပျောသီး၊ ဖရဲသီး၊ လိမ္မော်သီးနှင့် အခြားအသီးအနှံများ
  5. ကြက်ဟင်းခါးသီး၊ ဒန့်သလွန်သီး စသည့် အခြားသော ဟင်းသီးဟင်းရွက်များအားလုံး
  6. နှင်းဆီကဲ့သို့သော ပန်းများ

**HDDES Natural Products (Myanmar) Limited**

**List of Products**

- First Priority Products are processed from the following main raw materials.

1. Ginger
2. Vanilla
3. Turmeric
4. Chillies
5. Jasmine Flower
6. Vanilla Bean (Black Gold)
7. Paprika
8. Centella Asiatica and Moronaga
9. Sandalwood Trees
10. Garlic

- Second priority list of products are derived from the following raw materials,

1. Lime and Lemmon
2. Basil Leaves
3. Any Other Spices
4. Fruits as Mangoes, Banana, Water Lemon, Orange and other fruits
5. All other vegetables as Bitter Gourd, Murunga etc.
6. Flowers as Roses etc.

(မြန်မာဘာသာ ပြန်ဆိုချက်)

**HDDES NATURAL PRODCUTS (MYANMAR)LTD**

**EXECUTIVE SUMMARY**

## ဆောင်ရွက်မှုအကျဉ်း

**သီရိလင်္ကာနိုင်ငံတွင် လက်ရှိလုပ်ငန်းဆောင်ရွက်မှု**

HDDES အဖွဲ့သည် နှစ်ပေါင်း (၄၀) နီးပါး သက်တမ်းရှိသော အဖွဲ့ဖြစ်ပြီး HDDES အမည်ဖြင့် သဘာဝထုတ်ကုန် လုပ်ငန်းနှင့် ဝယ်ယူသုံးစွဲသူအကြိုက် သဘာဝပစ္စည်းနှင့် သမားရိုးကျ သဘာဝဆီတို့ကို အချိန်ဇယား လုံ့လဝီရိယစိုက်ထုတ် ၍ ထုတ်လုပ်လျက်ရှိပါသည်။

HDDES အဖွဲ့ (HDDES Group) ၏လက်အောက်ခံဖြစ်သော HDDES Extracts (PVT) Ltd. ၏ထုတ်လုပ်ရေး အဆောက်အဦးသည် ၂၀၀၃ ခုနှစ်မှ စ၍ သီရိလင်္ကာနိုင်ငံ Horana ရင်းနှီးမြှုပ်နှံမှုဘုတ်အဖွဲ့ (Board of Investment) တို့တွင် သဘာဝဆီနှင့် သမားရိုးကျ သဘာဝလယ်ယာထုတ်ကုန်အဖြစ် ဇရုတ်ဆီ/ ဇရုတ်နှစ် စသည်အားဖြင့် အဓိကတန်ဖိုးမြင့် ပစ္စည်းများ ထုတ်လုပ်ပါသည်။ ထုတ်လုပ်ရာတွင် ပေါင်းခံခြင်းနှင့် ပျော်ဝင်အနှစ်ထုတ်ယူခြင်း နည်းစနစ်များကို အသုံးပြုဆောင်ရွက်ပါသည်။

အခြေခံစက်မှုလုပ်ငန်းဝန်ကြီးဌာန (Ministry of Primary Industries) က ကုမ္ပဏီသည် စီးပွားရေး၊ လယ်ယာ စိုက်ပျိုးရေးကဏ္ဍအား အထောက်အကူပြုလျက်ရှိပြီး တောင်သူလယ်သမားများနှင့် အခွင့်အလမ်း နည်းပါးသော သူများအား အလုပ်အကိုင်အခွင့်အလမ်းများ ပွင့်လန်းရရှိစေကြောင်း၊ တန်ဖိုးမြင့်ပစ္စည်းသစ်များကို ထုတ်လုပ်ပေးနိုင်ကြောင်း၊ နိုင်ငံတွင်းရှိ လက်အောက်ခံကုမ္ပဏီသစ်များကိုလည်း လုပ်ငန်းအထောက်အကူပြု ပစ္စည်းများကို ကူညီထောက်ပံ့ ပေးကြောင်း ချီးကျူးထောက်ခံထားပါသည်။

**လက်ရှိရရှိနိုင်သော သဘာဝအရည်အသွေးနှင့် မျှတသော ကူးသန်းရောင်းဝယ်ရေး စံနှုန်းနှင့် လက်မှတ်များ**

၁. ISO 9001:2008 Quality Management System - အရည်အသွေး စီမံအုပ်ချုပ်မှုစနစ်

၂. ISO 220000:2005 Food Safety Management System - အစားအသောက် အန္တရာယ် ကင်းရှင်းရေး စီမံအုပ်ချုပ်မှုစနစ်

၃. USDA Organic Production Method – USDA သဘာဝပစ္စည်းထုတ်လုပ်ရေး နည်းလမ်းများ

၄. JAS Organic Production Method – JAS သဘာဝပစ္စည်းထုတ်လုပ်ရေး နည်းလမ်းများ

၅. KOSHER Certification – KOSHER ထောက်ခံချက်လက်မှတ်

၆. Certificate of Compliance & Pair Trade Version - စည်းကမ်းလိုက်နာ ဆောင်ရွက်ခြင်းနှင့် တရားမျှတသော ကူးသန်းရောင်းဝယ်မှု

HDDES သည် မိမိနှင့်လက်တွဲဆောင်ရွက်သော တောင်သူလယ်သမားများ၊ အလုပ်သမားများ၊ စီမံအုပ်ချုပ်ရေး အဖွဲ့နှင့် ကုမ္ပဏီဒါရိုက်တာများက အလုပ်အပေါ် အလေးအနက်ထားလုပ်ကိုင် ဆောင်ရွက်ခြင်း၊ အဆင့်မြင့် အရည်အသွေး ကောင်းမွန်သော ကုန်ပစ္စည်းများ ထုတ်လုပ်ပေးပို့ခြင်းနှင့် ကောင်းမွန်သော ဝန်ဆောင်မှုများပေးခြင်းတို့ကြောင့် ကမ္ဘာ့အကြီးဆုံးဆေးဝါးလုပ်ငန်းအချို့၊ ကမ္ဘာ့အလှကုန်ပစ္စည်းနှင့် စားသောက်

ကုန်လုပ်ငန်းကြီးအချို့တို့၏ ယုံကြည်ကိုးစားမှုကို နှစ်ပေါင်းများစွာကတည်းက ခံယူရရှိခဲ့သည်။ HDDES သည် ယင်းကုမ္ပဏီကြီးများသို့ နှစ်ပရိစ္ဆေဒများစွာ ပစ္စည်းတင်ပို့ ရောင်းချခဲ့ရပါသည်။ နှစ်ပေါင်း (၁၉) နှစ် ကာလအတွင်း HDDES သည် လုပ်ငန်းကို အောင်မြင်စွာ ဆောင်ရွက်နိုင်ခဲ့ပြီး အများ၏နှစ်သက်ကျေနပ်မှုကို ပေးစွမ်းနိုင်ခဲ့ခြင်းကြောင့် ပြည်တွင်းနှင့်နိုင်ငံတကာမှ ချီးမြှင့်သည့် ဆုကြီး (၁၉) ဆု ဆွတ်ခူးရရှိခဲ့ပါသည်။

**ပရောဂျက်လုပ်ငန်း ဖော်ပြချက်**

သီရိလင်္ကာနိုင်ငံတွင် ကုန်ပစ္စည်းရရှိနိုင်မှု အရင်းအမြစ်၊ နိုင်ငံရေးဖြစ်ပေါ် ပြောင်းလဲမှုနှင့် ပတ်ဝန်းကျင် ရာသီဥတု၊ စိုက်ပျိုးမြေရရှိနိုင်မှုနှင့် အစိုးရ၏ ဆွဲဆောင်အားပေးမှုများ၊ အထောက်အကူပြုပစ္စည်းများ၊ သမိုင်းရေးရာ ယဉ်ကျေးမှုဆက်ဆံရေး၊ စိုက်ပျိုးရေးပစ္စည်းရရှိနိုင်မှုအခက်အခဲများရှိသောကြောင့် ကုမ္ပဏီသည် သီရိလင်္ကာနိုင်ငံမှ ပထမဆုံးအကြိမ် ခွဲထွက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ HDDES Natural Products (Myanmar) Ltd. အဖြစ် ခြံမြေလုပ်ငန်း လုပ်ကိုင်ရန် ဖွဲ့စည်းထူထောင်ခဲ့ပါသည်။ ထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေး အဖွဲ့အစည်းတစ်ခုအဖြစ် ဖွဲ့စည်းခဲ့ပါသည်။ ပရောဂျက်လုပ်ငန်းတွင် ဂျင်းဆီ၊ ငရုတ်ဆီ/ ငရုတ်နှစ်၊ သစ်ခွစေ့၊ စံပယ်ရနံ့ဆီ၊ ငရုတ်ပွဆီ၊ နနွင်းဆီ/ နနွင်းအနှစ်၊ မြင်းခွာရွက်နှင့် ဒန့်သလွန်ရွက် စသည်တို့ကို တန်ဖိုးမြင့်ကုန်ပစ္စည်းများအဖြစ် ထုတ်လုပ်သွားမည်ဖြစ်ပါသည်။ HDDES နှင့် Winrock International တို့သည် လုပ်ငန်းပြုပြင်ပြောင်းလဲမှုများ ပြုလုပ်ပြီး နည်းပညာအကူအညီပေးကာ ဤပရောဂျက်မှ ရရှိမည့် တောင်သူများ၏ဝင်ငွေများကိုလည်း ထိခိုက်လျော့နည်းစေမည့် အန္တရာယ်ကို ကာကွယ်စောင့်ရှောက်ပေးကြမည် ဖြစ်သည်။ HDDES Natural Products (Myanmar) Ltd. သည် မြန်မာနိုင်ငံ လယ်ယာစိုက်ပျိုးရေးဝန်ကြီးဌာန၊ သုတေသနဌာနနှင့် အနီးကပ်ပူးပေါင်းဆောင်ရွက်သွားမည့်ပြင် အားလုံးအကျိုးကျေးဇူး ဖြစ်ထွန်းနိုင်ရေး အတွက် အစိုးရမဟုတ်သော NGO အဖွဲ့များနှင့် ထုတ်လုပ်တင်ပို့ရေး အသင်း (Producer & Export Association) တို့နှင့် လက်တွဲ၍ပြုပြင် ပြောင်းလဲမှု အရှိန်အဟုန်အား တိုးမြှင့်ဆောင်ရွက်သွားမည်ဖြစ်သည်။

**ဂျင်း**

ကမ္ဘာနှင့်အဝှမ်း ဝယ်လိုအား မြင့်မားလာရာ (တစ်နှစ်လျှင် ၂၅% ပိုမိုမြင့်မားလာနေသည့်) ဖြစ်သောကြောင့် ကုန်သည်တစ်ဦးက "ဂျင်းလိုဘ ဘယ်တော့မှမပြည့်ဝ" ဟု တင်စားပြောဆိုထားရာ မြန်မာနိုင်ငံတွင် ဂျင်းထုတ်လုပ်ရေး တိုးတက်မှုအခွင့်အလမ်းကောင်းများ ရှိနေသည့်ပြင် တန်ဖိုးမြင့်မားမည့် အလားအလာများ ရှိနေပါသည်။ ရှမ်းပြည်တောင်ပိုင်းမြို့နယ် (၆) မြို့နယ်တွင် အငယ်တန်းတောင်သူ (၁၀,၀၀၀) ခန့်သည် လတ်ဆတ်သန့်ပြန့်သော ဂျင်း မက်ထရစ်တန်ချိန် (၃၀,၀၀၀) ခန့်ကို ထုတ်လုပ်လျက်ရှိပါသည်။ (မြန်မာနိုင်ငံသည် ဂျင်းထုတ်လုပ်မှု ၉၀% ထွက်ရှိခြင်း ဖြစ်သည်။ ထွက်ရှိသည်မှ ဂျင်း ၄၀% ကို ပြည်တွင်း၌ရောင်းချပြီး ကျန်ဂျင်းများကို အစိုဖြစ်စေ၊ ဂျင်းခြောက်အနေဖြင့်ဖြစ်စေ ပြည်ပသို့ တင်ပို့ရောင်းချပါသည်။ ဂျင်းသည် ကျေးလက်ဒေသ တိုးတက်ဖွံ့ဖြိုးရေးအတွက် စားသုံးသူများထံ ပို့ပေးသည့် အမြတ်အစွန်းရရှိနိုင်သော ချိတ်ဆက်တန်ဖိုးရှိ (Value Chain) ပစ္စည်းအဖြစ် ရပ်တည်လျက် ရှိပေသည်။ သို့ရာတွင် ဝယ်ယူစားသုံးသူနှင့် ချိတ်ဆက်သည့် ယင်းကွင်းဆက်တွင် ဟန့်တားထိန်းချုပ်မှုများ ရှိနေသေးသည်။ ထိုဟန့်တား ချုပ်ခြယ်မှုများကို ပြုပြင်ရန်လိုအပ်သည်။ ယေဘုယျအားဖြင့် စားသုံးသူနှင့် ချိတ်ဆက်ပေးသည့် ထိုတန်ဖိုးကွင်းဆက်သည် ဈေးကွက်ဝင်ရန် လိုအပ်သည်၊ အခြားတစ်နည်းဖြင့် တန်ဖိုးမြင့် ဈေးကွက်လမ်းကြောင်း၏ ပစ္စည်းဖြစ်ရန် လိုအပ်သည်။ ထိုသို့ဖြစ်မြောက်အောင်မြင်လျှင် ချိတ်ဆက်တန်ဖိုး မဟာဗျူဟာသည် ပြည်ပတင်ပို့သည့် ဂျင်းတန်ဖိုး တိုးတက်မြင့်မားရေး ကို အထောက်အကူဖြစ်စေပါသည်။ ထိုအခါ ပြည်တွင်းဂျင်းစို ဝယ်လိုအားကိုလည်း ဖြည့်ဆည်းပေးနိုင်ပါမည်။ ပြည်ပတင်ပို့ သည့် ကုန်ကြမ်းပစ္စည်းအပေါ် အခြေခံ၍ ထုတ်လုပ်မှုတိုးမြှင့်၍

ပစ္စည်းတန်ဖိုးမြှင့်ကာ အမှန်စားသုံးသူများထံသို့ တင်ပို့ရောင်းချနိုင်ပါသည်။

(သတင်းအရင်းအမြစ် - Ginger Value Chain for Rural Development – USAID) HDDES Natural Products (Myanmar) Ltd. သည် အထက်ဖော်ပြပါအခွင့်အလမ်းများကို သိရှိထားပြီးသည့် အားလျော်စွာ အဆိုပါ ရည်ရွယ်ချက်များ ပြည့်ဝအောင်မြင်အောင် ဆောင်ရွက်သွားမည်ဖြစ်သည်။ ပထမနှစ် လုပ်ကိုင်ရာတွင် ကျေးလက်တောင်သူများထံမှ ဂျင်း (၆%) - မက်ထရစ်တန်ချိန် ၁၈၀၀ တန်ဝယ်ယူမည်ဖြစ်သည်။ ဂျင်းကုန်ကြမ်းကို အသွင်သစ် ပြောင်း၍ တန်ဖိုးမြှင့်ကုန်အဖြစ် ထုတ်လုပ်သောကြောင့် တောင်သူသစ် (၃,၀၀၀) က ကျွန်ုပ်တို့နှင့် လက်တွဲဆောင်ရွက်ကြပါမည်။

**သစ်ခွစေ့ (ရွှေမည်း)**

ကမ္ဘာ့ဈေးကွက်အလားအလာကိုသိရှိ၍ ဝယ်လိုအားမြင့်တက်ကာ ရောင်းလိုအားက မမီနိုင်ဖြစ်နေသော သင့်တင့်ကောင်းမွန်မှန်ကန်သည့် ရာသီရှိရန်လိုအပ်သော သဘာဝသစ်ခွစေ့များကို HDDES Natural Products (Myanmar) Ltd. သည် Winrock International(USAID)၏ အကူအညီဖြင့် မြန်မာနိုင်ငံတွင် ကနဦး စိုက်ပျိုးရန် မျှော်မှန်းထားပါသည်။ HDDES Natural Products (Myanmar) Ltd. သည် သစ်ခွကိုင်းများကို မြေဧက ၂၀၀ ပေါ်တွင် စိုက်ပျိုးရန် စီမံချက်ချမှတ် ဆောင်ရွက်ပါမည်။ ကမ္ဘာ့ဈေးကွက်တွင် သဘာဝသစ်ခွစေ့ လိုအပ်ချက်မှာ မက်ထရစ်တန်ချိန် ၄,၀၀၀ ခန့် ရှိပြီး သစ်ခွအတုတန်ချိန် ၅၀,၀၀၀ ခန့်လိုအပ်ပါသည်။ နိုင်ငံစုံ အခြေစိုက် ကမ္ဘာ့ကုမ္ပဏီကြီးများ၏ သစ်ခွအတုမှ သစ်ခွအစစ်သို့ ပြောင်းလဲအသုံးပြုရန် ဆုံးဖြတ်ကြသောကြောင့် သစ်ခွအစစ်ဝယ်လိုအား များလာပြီး ရောင်းအားမှာ ကျသွားသည်။ သစ်ခွအစစ်၏ဈေးနှုန်းသည် တစ်ကီလိုဂရမ်လျှင် အမေရိကန်ဒေါ်လာ ၂၀၀ မှ ၆၀၀ သို့ တစ်ဟုန်ထိုး မြင့်တက်လာသည်။ သီရိလင်္ကာနိုင်ငံတွင် သစ်ခွစိုက်ပျိုးရာ၌ တွေ့ကြုံသိရှိခဲ့သော အသိပညာ ဗဟုသုတကို အခြေခံ၍ HDDES Natural Products (Myanmar) Ltd. သည် Winrock International နှင့်လည်းကောင်း တောင်သူများနှင့် တောင်သူအစုအဖွဲ့များနှင့် ပူးပေါင်းလက်တွဲ၍ မြန်မာနိုင်ငံတွင် ကျယ်ကျယ်ပြန့်ပြန့်ဝါယမစိုက်ထုတ်စိုက်ပျိုးနိုင်ပါသည်။ သို့ဖြစ်၍ မကြာသော အနာဂတ်ကာလတွင် ဤပစ္စည်းသည် ဈေးကွက်တွင် ရေပန်းစားသောပစ္စည်းဖြစ်လာပေတော့မည်။ တောင်သူပေါင်း ၃,၀၀၀ ခန့်နှင့် အမျိုးသမီးများနှင့် ချို့တဲ့သူများအတွက် အကျိုးကျေးဇူး ခံစားရရှိကြပါသည်။

မြန်မာနိုင်ငံတွင် သစ်ခွစိုက်ပျိုးခြင်းသည် မြန်မာနိုင်ငံ စိုက်ပျိုးရေးလုပ်ငန်း ပြုပြင်ပြောင်းလဲမှုကြီး၏ ခြေလှမ်းတစ်လှမ်းဖြစ်ပြီးကဏ္ဍသစ်သို့ ကူးပြောင်းခြင်းပင် ဖြစ်သည်။ ၃,၀၀၀ ခန့်သော တောင်သူများသည် လူကြိုက်များသည့် ဤပန်းကြောင့် တိုက်ရိုက် အကျိုးကျေးဇူး ခံစားကြရပါမည်။

**စံပယ်ပန်း**

HDDES သည် မြန်မာနိုင်ငံသို့ လေ့လာရေးခရီးထွက်မည့်အခါတိုင်း HDDES ၏စံနှုန်းဖြင့် မြန်မာနိုင်ငံ၏ စံပယ်ပန်းမည်သို့ စိုက်ပျိုးနိုင်သည်ကို စဉ်းစားသုံးသပ်ကြည့်ပါသည်။ လောလောဆယ် မြင်တွေ့သိရှိရသည်မှာ မြန်မာနိုင်ငံတွင် စံပယ်ပန်းကို ဗုဒ္ဓမြတ်စွာဘုရားအား လှူဒါန်းပူဇော်ကြသည်ကို တွေ့ရှိရသဖြင့် တောင်သူများနှင့် တောင်သူအစုအဖွဲ့များသည် ဤပန်းကို စိုက်ပျိုးရာ၌ ကျွန်ုပ်တို့နှင့် လက်တွဲဆောင်ရွက်ကြမည်မှာ သေချာသည်။ ကျွန်ုပ်တို့သည် စံပယ်ပန်းမှ စံပယ်ရနံ့ကို ထုတ်ရန် စိတ်ကူးပါသည်။ စံပယ်မှာ ရှားပါးလုပ်ငန်းဖြစ်ခြင်းကြောင့် ကမ္ဘာ့ဈေးကွက်တွင် ယင်းပန်းကို အကန့်အသတ်ဖြင့်သာ ရရှိနိုင်ပါသည်။ အိန္ဒိယနိုင်ငံသည် ကမ္ဘာ့ဈေးကွက်သို့ စံပယ်အများဆုံးပို့နိုင်သော နိုင်ငံဖြစ်သည်။ သို့ဖြစ်၍ HDDES Natural Products (Myanmar) Ltd. သည် Winrock International နှင့် လက်တွဲ၍ တောင်သူ အခြေပြုယာမြေများပေါ်တွင် စိုက်ပျိုးရန် စီမံချက်ချထားပါသည်။ ကမ္ဘာ့ဈေးကွက်တွင် စံပယ်ဆီရနံ့၏ဈေးနှုန်းသည် အလွန်ကြီးသည်။ တစ်ကီလိုဂရမ်လျှင် အမေရိကန်ဒေါ်လာ ၄,၀၀၀ ပေးရသည်။ ဤပရောဂျက်သည် မြန်မာနိုင်ငံ၌ ပန်းလုပ်ငန်းကြီးကို

စီးပွားရေးပုံစံသစ်အဖြစ် ပြောင်းလဲပေးမည့် နောက်ထပ်ခြေလှမ်းတစ်ရပ်ဖြစ်ပေသည်။ ဘာသာတရားကို ကြည်ညိုကိုင်းရှိုင်းကြသော ဗုဒ္ဓဘာသာဝင် ရွာသူရွာသားများသည် Winrock International နှင့် HDDES Natural Products (Myanmar) Ltd. တို့နှင့် လက်တွဲလုပ်ကိုင်ဆောင်ရွက်ကြမည်မှာ သေချာလှပေရာ ကျေးလက်စီးပွားရေးကို အောင်မြင်စွာဖြင့် ကဏ္ဍသစ်ဖွင့်လှစ်နိုင်ပါသည်။ တောင်သူ ၃,၀၀၀ ခန့်နီးပါးသည် ထိုအပြောင်းအလဲမှနေ၍ အကျိုးခံစားခွင့် ရရှိလိမ့်မည်ဖြစ်သည်။

**ငရုတ်ပွ**

တောင်သူများ၊ ကုန်သည်များနှင့် ဆွေးနွေးညှိနှိုင်းကြည့်ရာတွင် HDDES အနေဖြင့် သုံးသပ်ကြည့်ရာ၌ အစားအသောက် အရောင်တင် ငရုတ်ပွသည် ပစ္စည်းကောင်းလျှင် ဈေးကလည်း အလွန်ကောင်းသည်။ စမ်းသပ်သည့် အနေဖြင့် ယင်းငရုတ်ပွတစ်ချို့ဝယ်ယူပြီး ကျွန်ုပ်တို့၏ စက်ရုံ၌ အမှုန့်ပြုလုပ်၍ ပစ္စည်းအဖြစ် စမ်းသပ်သုံးစွဲကြည့်ရာ အလွန်အောင်မြင်ပါသည်။

ဗဟိုအမေရိကနှင့် တောင်အမေရိကတို့မှ ထွက်သည့် ငရုတ်ကောင်းမျိုးသည် ဆေးရွက်ကြီး အုပ်စုတွင်ပါဝင်ပြီး ငရုတ်သီးအနွယ်ဝင် ငရုတ်ကောင်း အမျိုးအစားတွင် ပါဝင်ပါသည်။ အရောင်တင်ငရုတ်ပွအဆီကို သဘာဝအရသာကို ဖြည့်စွက်ပေးသည့် ပစ္စည်းအဖြစ် စားသောက်ကုန်လုပ်ငန်း၌အသုံးပြုကြပါသည်။ ထို့ပြင်သားငါးများ၊ ဒိန်ခဲထုပ် အစားအသောက်များ၊ ပြောင်းဖူးပေါက်ပေါက်ဆီနှင့် ဒိန်ခဲများတွင်လည်း အရောင်တင်အမှုန့်အဖြစ် အသုံးပြုကြပါသည်။ ထို့နောက် ဆေးဝါးထုတ်လုပ်ရာတွင်လည်း ငရုတ်ဆီအစိုဖြစ်စေ၊ အခြောက်ဖြစ်စေ အသုံးပြုလေ့ရှိပါသည်။ ထို့ပြင် ယခင်ကပင် ဇီဝသတ္တိဓာတ်ပေါင်းများဖြစ်သည့် အပုပ်နံ့ခံနိုင်သည့် ပိုးသတ်ဆေးများ၊ flavonoids, phenols, carotenoids, capsaicinoids နှင့် ဗီတာမင်အားဆေးများတွင် ထည့်သွင်းဖော်စပ်ပါသည်။ ယင်းအရောင်တင်ငရုတ်ပွဖြင့် ပစ္စည်းနှစ်မျိုး ဖော်စပ်ပါသည်။ *အရည်အသွေးကောင်းသော အနီရောင်ဂျင်း၊ ငရုတ်မှုန့်နှင့် *အရောင်တင်ငရုတ်ပွဆီ တို့ဖြစ်သည်။ အထက်ဖော်ပြပါ ပစ္စည်းများကို အဓိကတင်ပို့သည့် နိုင်ငံများမှာ တရုတ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့ဖြစ်သည်။

ဆင်းရဲသော တောင်သူမိသားစု ၂,၀၀၀ မှ ၃,၀၀၀ ခန့်တို့သည် အထက်ပါလုပ်ငန်းမှ တိုက်ရိုက်အကျိုးခံစားခွင့် ရရှိကြပါမည်။

**နနွင်း**

နနွင်း (Turmeric) ဆိုသည်မှာ ပါရှင်းဝေါဟာရ (Saffron) မှ ဆင်းသက်လာခြင်းဖြစ်ပြီး လိမ္မော်ရောင်သမ်းသည့် အဝါရောင်အဆင်းရှိသည်။ ဟင်းချက်ရာ၌ ခတ်သောပစ္စည်းဖြစ်သည်။ တောရိုင်းပင်မဟုတ်ဘဲ အိမ်ခြံမြေတွင် ပေါက်ရောက်နိုင်သောအပင်ဖြစ်သည်။ အိန္ဒိယနိုင်ငံသည် ကမ္ဘာ့သို့ နနွင်းတင်ပို့သည့် အဓိကနိုင်ငံဖြစ်သည်။ ကမ္ဘာ့ဈေးကွက်တွင် အိန္ဒိယနနွင်း ၆၀% လွှမ်းမိုးထားသည်။ အခြားနိုင်ငံများအနက် နနွင်းဈေးကွက်တွင် တရုတ်က ၈% နှင့် မြန်မာနိုင်ငံမှ ၄% တင်ပို့ရောင်းချသည်။ အိန္ဒိယသည် ဈေးကွက်သို့ တင်ပို့သည့် နနွင်းတန်ချိန်သည် ၁၈၀,၀၀၀ ရှိသည်။

လွန်ခဲ့သော နှစ်များစွာအတွင်း နနွင်း၏အကျိုးကျေးဇူးကို ကြိမ်ဖန်များစွာ စူးစမ်းလေ့လာခဲ့ကြသည်။ ကင်ဆာရောဂါကို တိုက်ဖျက်ကာကွယ်နိုင်သည့် ယင်း၏သတ္တိကို လေ့လာကြည့်ကြပါသည်။ နနွင်းတွင်ပါဝင်သည့် Curcumine ဓာတ်သည် အသားယောင်ရမ်းခြင်းကို တားဆီးကာကွယ်နိုင်သည့် သတ္တိရှိသောကြောင့် ယောင်ရမ်းသည့် ဝေဒနာမျိုးစုံအပြင် အဆစ်အမြစ်ယောင်ခြင်း၊ အရွတ်ယောင်ခြင်းနှင့် ထိခိုက်ဒဏ်ရာ ရရှိခြင်းတို့ကို ကုသရာ၌အလွန်ထိရောက်ပါသည်။ နနွင်းစိုက်လျှင် ဆင်းရဲသော တောင်သူ ၂,၀၀၀ ခန့်သည် ပရောဂျက်ကာလအတွင်းနှင့် နောင်းကာလများတွင်ပါ အကျိုးကျေးဇူး ခံစားကြရပါမည်။

နန္ဒွင်းတွင် ပါဝင်သော အံ့သြဖွယ်ဓာတ်ပစ္စည်းများကြောင့် ကမ္ဘာ့ဈေးကွက်တွင် ဝယ်လိုအား မြင့်တက်နေမည်သာဖြစ်ရာ HDDES သည် မြန်မာနိုင်ငံသို့ဝင်ရောက်ကာ ထိုအခွင့်အရေးကို အသုံးချနိုင်အောင် ကြိုးပမ်းဆောင်ရွက်သွားမည်ဖြစ်သည်။

**မြင်းခွာရွက် (Centella Asiatica) နှင့် Moronaga ရွက် (ဂျပန်အခေါ်အဝေါ်ဖြစ်သည်။)**

ထိခိုက်ဒဏ်ရာရရှိ၍ အနာတရဖြစ်ခြင်းကို အမြန်ပျောက်ကင်းစေသောကြောင့် ကျန်းမာရေးအတွက် အကျိုးရှိသဖြင့် မြင်းခွာရွက်ကို အလွန်စိတ်ဝင်စားကြသည်။ အရေပြားဝေဒနာများကို ကာကွယ်စောင့်ရှောက်ပေးခြင်း၊ အာရုံကြောများ ပုံမှန်ဖြစ်စေခြင်း၊ မူးဝေခြင်းကို သက်သာစေခြင်း၊ နှလုံးနှင့်သွေးလည်ပတ်သည့် စနစ်ကို ကာကွယ်ပေးခြင်း စသည့်ဝေဒနာများ ကုသရာ၌ အသုံးဝင်သောကြောင့် မြင်းခွာရွက်ကို လူအများစိတ်ဝင်စားကြသည်။ အံ့သြဖွယ်ရာ ကျန်းမာရေးအကျိုးပြုသဖြင့် ကမ္ဘာ့ဝယ်လိုအားမှာ အလွန်မြင့်မားသည်။ သို့ရာတွင် ပစ္စည်းရရှိနိုင်မှု အကန့်အသတ်ရှိသည်။ လိုသလောက်မရနိုင်ပေ။ HDDESသည် မြန်မာနိုင်ငံ၌ မြင်းခွာရွက်ရရှိနိုင်ကြောင်း သိရှိထားသဖြင့် ဆင်းရဲသော ရွာသူရွာသားများနှင့် လက်တွဲ၍ မြင်းခွာရွက် ဝယ်ယူရန်နှင့် ယင်းဆင်းရဲသော ရွာသူရွာသားများ အဖို့လည်း အလုပ်ကဏ္ဍသစ်မှ ဝင်ငွေရရှိရေး ဖန်တီးပေးရန် စဉ်းစားဆုံးဖြတ်ထားပါသည်။

ထိုနည်းတူ မြင်းခွာရွက်နှင့် အလားတူ Moronga ရွက် (ဂျပန်အခေါ်အဝေါ်ဖြစ်သည်) ကိုလည်း တောင်သူများက HDDES အားပေးသွင်းနိုင်လျှင် ယင်းတို့အတွက် ဝင်ငွေရလမ်းတစ်ခု ပေါ်လာဦးမည်ဖြစ်သည်။ လောလောဆယ်တွင် ထိုအရွက်ကို စီးပွားဖြစ်ရောင်းဝယ်ကြသည်ကို မတွေ့ရှိရသေးပေ။

ခြုံငုံသုံးသပ်မည်ဆိုပါက ဆင်းရဲသော တောင်သူမိသားစု ၅,၀၀၀ နှင့် အလုပ်အကိုင်အခွင့်အလမ်း နည်းပါးကြသော တောင်သူတို့သည် အဆိုပါဆေးရွက်နှစ်မျိုးစလုံးကို ဆွတ်ခူးပေးသွင်းခြင်းအားဖြင့် စီးပွားရေး အခွင့်အလမ်း ပွင့်၍ အကျိုးကျေးဇူး ဖြစ်ထွန်းကြမည်ဖြစ်ပါသည်။

**စန္ဒကူးနံ့သာပင်**

ရေရှည်မဟာဗျူဟာအဖြစ် ကုမ္ပဏီသည် စန္ဒကူးနံ့သာပင်များ စိုက်ပျိုးရန်အာရုံစိုက် ဆောင်ရွက်သွားပါမည်။ ဤသို့စဉ်းစားခြင်းမှာ မြေပြင်လွင်တီးခေါင်ဖြစ်ခြင်းနှင့် မြေပြိုခြင်းတို့မှ ကာကွယ်နိုင်ရန် ဖြစ်သည်။ ရေတိုမဟာဗျူဟာ အနေဖြင့် ကုမ္ပဏီသည် အိမ်ခြံမြေတွင် သစ်ပင်စိုက်ပျိုးခြင်း အစီအစဉ်ချမှတ် ဆောင်ရွက်သွားပါမည်။ ယင်းစိုက်ပျိုးလုပ်ငန်းတွင် ဆင်းရဲသော တောင်သူများနှင့် အလုပ်အကိုင် အခွင့်အလမ်းနည်းပါးသော တောင်သူများအား စန္ဒကူးပင်များ ဖြန့်ဝေပေးပြီး ယင်းတို့၏ ခြံဝင်းအတွင်း စိုက်ပျိုးစေပြီး အစိုးရနှင့် ရေရှည်လက်တွဲ ဆောင်ရွက်နိုင်စေရန်နှင့် စန္ဒကူးပင်များ စိုက်ပျိုးခြင်းအားဖြင့် သစ်တောပြုန်းတီးမှုကို ကာကွယ်နိုင်စေပါသည်။ စန္ဒကူးပျိုးခင်းများနှင့် စန္ဒကူးပင် စိုက်ပျိုးရေး အစီအစဉ်အား အကျိုးကျေးဇူး ဖြစ်ထွန်းစေမည်ဖြစ်ပါသည်။

**အဓိကစိန်ခေါ်မှုများနှင့် ပြဿနာများ အကျိုးခံစားခွင့်မဲ့နေသူများ၊ စားသုံးသူများ၊ ထုတ်လုပ်သူများနှင့် အလုပ်သမားများ အကျိုးဖြစ်ထွန်းစေရန် ဤပရောဂျက်လုပ်ငန်းသစ်ကို ပြုပြင်ဆောင်ရွက်သွားမည်ဖြစ်သည်။**

မြန်မာနိုင်ငံလယ်ယာစိုက်ပျိုးရေးကဏ္ဍကို ပြည်ပတင်ပို့ဈေးကွက်အတွက် တန်ဖိုးမြှင့်လယ်ယာကုန်ချောသစ်များ ထုတ်လုပ်ရန်ပြုပြင်ပြောင်းလဲခြင်း။

မြန်မာနိုင်ငံလယ်ယာစိုက်ပျိုးရေးကိုတန်ဖိုးမြှင့်လယ်ယာထုတ်ကုန်သစ်များ ပြောင်းလဲထုတ်လုပ်ခြင်း၊ သစ်ခွပင်များ နှင့်စံပယ်ပင်များကို ကျယ်ပြန့်စွာစိုက်ပျိုးရေး စိန်ခေါ်မှု။

ဂျင်း၊ ငရုတ်ပွနှင့်နနွင်းကဲ့သို့သော မြန်မာနိုင်ငံ၏ အဓိကလယ်ယာထွက် ပစ္စည်းများကို ပြည်ပဈေးကွက်တင်ပို့ရန် တန်ဖိုးမြှင့်ပစ္စည်းများအဖြစ် ပြောင်းလဲထုတ်လုပ်ပါက ကုန်ကြမ်းကုန်ခြောက်အဖြစ် တင်ပို့ခြင်းထက် နိုင်ငံအတွက် နိုင်ငံခြားဝင်ငွေပိုမို ရရှိပါသည်။

အခွင့်အလမ်းမဲ့နေသော မြန်မာအမျိုးသမီး အလုပ်သမားများအား လေ့ကျင့်သင်ကြား တတ်မြောက်ထားသော ကျွမ်းကျင်လုပ်သား အင်အားစုအဖြစ် ပြောင်းလဲဖွဲ့စည်းခြင်း။

ဆင်းရဲနွမ်းပါးသော လက်ရှိတောင်သူလယ်သမား မကြာမီက လယ်သမားဖြစ်လာသူများ (အမျိုးသား-အမျိုးသမီးလယ်သမားများ)အား လယ်ယာလုပ်ငန်းခွင် လက်တွေ့အလေ့အကျင့်ကောင်းများ ရရှိစေရန် နည်းပညာ အကူအညီပေး၍ အသိပညာကြွယ်ဝအောင် ပြုပြင်ပြောင်းလဲခြင်း။ သို့မှသာလျှင် ဈေးကွက်သို့ တင်ပို့နိုင်မည့် လယ်ယာပစ္စည်းကောင်းများ ထွက်ရှိနိုင်မည်ဖြစ်သည်။

နောက်စိန်ခေါ်မှုတစ်ခုမှာ လယ်ယာသမားများ၊ တောင်သူများအနေဖြင့် ယင်းတို့၏လယ်ယာထွက်ကုန်များ အသုံးပြုသူများ သုံးစွဲမည့် ကုန်ပစ္စည်းများနှင့် ပတ်သက်၍ ဈေးကွက်သတင်းအချက်အလက် ပိုမိုပြည့်စုံစွာရရှိနိုင်ရန် ဆက်သွယ်ရေး ကွန်ရက်လုပ်ငန်းကို ပိုမိုတိုးတက်ကောင်းမွန်အောင် ဆောင်ရွက်ရေးပင်ဖြစ်သည်။

နောက်စိန်ခေါ်မှုတစ်ရပ်မှာ အမျိုးသမီးအလုပ်သမားများ အပါအဝင် မြန်မာအလုပ်သမားများ၏ ကုန်ထုတ်စွမ်းအင် (productivity) ကို မြှင့်တင်ပေးရန်ဖြစ်သည်။

နောက်ထပ်ပို၍ အလွန်အရေးကြီးသော စိန်ခေါ်မှုများ တောင်သူများနှင့် အစုအဖွဲ့များသည် ပစ္စည်းဈေးနှုန်းဆုံးဖြတ်ရာ၌ ရဲရဲတင်းတင်း ခိုင်ခိုင်မာမာ ညှိနှိုင်းဆွေးနွေး ပြောဆိုတတ်ရန် လိုအပ်ပါသည်။ သို့ဖြစ်၍ ဂျင်းနှင့်ငရုတ်ပွဈေးနှုန်း ဈေးကောင်းမရခြင်း စိန်ခေါ်မှုကို ပြောင်းလဲပစ်ရမည်။ ပြုပြင်ရမည်ဖြစ်သည်။

လက်ရှိဈေးကွက်တွင် တောင်သူများ ရင်ဆိုင်နေရသည့် အန္တရာယ်တစ်ခုမှာ မိမိတို့၏ လယ်ယာထွက်ပစ္စည်းများ၏ ဈေးနှုန်းမတည်ငြိမ်ဆဲ မကြာခဏပြောင်းလဲတတ်ခြင်း၊ ဈေးအကျမြန်ခြင်းပင်ဖြစ်သည်။ ထိုအခါ တောင်သူလယ်သမားများသည် မိမိဘဝတစ်လျှောက် ပုံမှန်တသမတ်တည်း ဝင်ငွေရရှိနိုင်ရေးအတွက် အခက်ကြုံလာသည်။ တောင်သူများအနေဖြင့် မိမိတို့သတ်မှတ်ဈေးမရရှိဘဲ ပုံမှန်ဈေးထက်များစွာ နိမ့်ကျနေသည်ကို တွေ့ရှိရတတ်သောကြောင့် ဈေးမတည်ငြိမ်မှု အန္တရာယ်ကို အမြဲတွေ့ကြုံနေကြရသည်။

နောက်စိန်ခေါ်မှုတစ်ရပ်မှာ အမျိုးသမီးများအပါအဝင် တောင်သူများနှင့် တောင်သူအုပ်စုအချို့ကို လုပ်ငန်း လုပ်ဆောင်ရာ၌ တာဝန်ယူမှုတာဝန်ခံမှု ရှိတတ်ရန်လိုအပ်သည်။ ယင်းတို့၏ အလေ့အထကို ပြုပြင်ပြောင်းလဲရန် လိုအပ်သည်။

နောက်စိန်ခေါ်မှုတစ်ခုမှာ သမာရိုးကျလယ်ယာစိုက်ပျိုးရေးမှ သဘာဝပစ္စည်း ထုတ်လုပ်ရေးလုပ်ငန်းသို့ ကူးပြောင်း လုပ်ကိုင်စေခြင်းအားဖြင့် လယ်သမားသည် ပစ္စည်းဈေးနှုန်းအနှိမ်ခံရခြင်းမှ သက်သာမည်။ ဈေးစကား ညှိနှိုင်း

ဆွေးနွေးရခြင်းမှ သက်သာမည်ဖြစ်သည်။

နောက်တစ်ခုမှာ ရေရှည်တွင် စီးပွားဖြစ်ထွန်းမည့် လယ်ယာထွက်ပစ္စည်းကို ပြောင်းလဲစိုက်ပျိုးလိုသည့် စိတ်ဓာတ်ဖြစ်ပေါ်လာဖို့ လိုသည်။ ဥပမာ- စန္ဒကူးပင်ကို ပြောင်းလဲစိုက်ပျိုးခြင်းမျိုး ဖြစ်သည်။

နောက်စိန်ခေါ်မှုတစ်ရပ်မှာ တန်ဖိုးမြင့်အသုံးအဆောင် ပစ္စည်းသစ်များ ထုတ်လုပ်နိုင်ရန် တည်ဆောက်ခြင်း ဖြစ်သည်။

နောက်တစ်ဖန် စိန်ခေါ်မှုမှာ ပြည်တွင်းအလုပ်သမားများ ခေါ်ယူစုဆောင်းပြီး ယင်းတို့အား အဆင့်မြင့် နည်းပညာနှင့် ကျွမ်းကျင်လုပ်သားများဖြစ်အောင် လေ့ကျင့်ပျိုးထောင်ပေးရန် လိုအပ်ပါသည်။

နောက်တစ်ခုမှာ ရေရှည်တွင် ထုတ်လုပ်ရေးစက်ရုံ ကုန်ပစ္စည်းသစ်များ ပိုမိုထုတ်လုပ်နိုင်ရေး၊ ထုတ်လုပ်မှုပမာဏ တိုးမြှင့်နိုင်ရေး၊ စန္ဒကူးသားကဲ့သို့သော ပစ္စည်းများ ထုတ်လုပ်နိုင်ရေးတို့ကို ဆက်လက်ကြိုးပမ်း ဆောင်ရွက်ရမည် ဖြစ်သည်။

**ပရောဂျက်နောက်ခံသမိုင်းနှင့် ရည်ရွယ်ချက်**
**အထက်ဖော်ပြပါ စိန်ခေါ်မှုများနှင့် ပြဿနာများအား ဖြေရှင်းဆောင်ရွက်ခြင်း**

အထက်ပါအခက်အခဲ ပြဿနာများကို အောက်ပါအတိုင်း ဖြေရှင်းဆောင်ရွက်ပါသည်။ လက်ရှိဂျင်းနှင့် ငရုတ်ပွတို့ကို အစဉ်အလာ လယ်ယာကိုင်းကျွန်းထွက်ကုန်များအဖြစ်မှ ဆန်းသစ်တည်ထွင် အသုံးပြုကုန်ပစ္စည်းများအဖြစ် ပြောင်းလဲထုတ်လုပ်ရန် စီမံကိန်းချမှတ် ဆောင်ရွက်ခြင်း။

ဂျင်း၊ နနွင်း၊ ငရုတ်ပွ စသည့် လယ်ယာကိုင်းကျွန်းထွက်ကုန်များကို ကမ္ဘာ့ဈေးကွက်တွင် အထူးလက်ခံတွင်ကျယ်စွာ ရောင်းရသည့် တန်ဖိုးမြှင့်ပစ္စည်းများအဖြစ် ပြုပြင်ပြောင်းလဲ ထုတ်လုပ်ခြင်း။

စားသုံးသူများ အမှန်တစ်ကယ် စားသုံးသော၊ အသုံးပြုသော ပစ္စည်းများ ထုတ်လုပ်နိုင်ရေးအတွက် စက်ရုံသစ်တစ်ခု တည်ဆောက်ရပါမည်။

Winrock International (USAID) အကူအညီဖြင့် မြန်မာနိုင်ငံ၏လယ်ယာစိုက်ပျိုးရေး သမိုင်းစဉ်ကို တော်လှန်ပြောင်းလဲ၍ ဥယျာဉ်ခြံမြေကို စီမံကိန်းချ လုပ်ကိုင်ဆောင်ရွက်ရန်နှင့် ယင်းသို့ဆောင်ရွက်ရာ၌ သစ်ခွနှင့်စံပယ်တို့ကို စီးပွားဖြစ်ပစ္စည်းများအဖြစ် ချက်ချင်းစိုက်ပျိုး ထုတ်လုပ်သွားရန် ဖြစ်သည်။

ထို့ပြင် Winrock International အကူအညီဖြင့် ရေရှည်စီမံကိန်းအဖြစ် စန္ဒကူးပင်များကို ကနဦးခြေလှမ်းအဖြစ် တောင်သူများ၏ အိမ်ခြံဝင်းများတွင် စတင်စိုက်ပျိုးကာ နောင်တွင်ခြံမြေဥယျာဉ်ကြီးများအတွင်း စိုက်ပျိုးရန်ဖြစ်ပါသည်။ ယင်းသို့ဆောင်ရွက်လျှင် ဆင်းရဲသားတောင်သူလယ်သမားများသည် မိမိတို့ခြံမြေတွင် စန္ဒကူး တစ်ပင်နှစ်ပင်စိုက်ရုံမျှဖြင့် ယင်းတို့၏ စီးပွားဓနတိုးတက် ချမ်းသာလာနိုင်ပါသည်။

HDDES ကလည်း Winrock International ၏ ကူညီပံ့ပိုးမှုဖြင့် ဆင်းရဲသားများ အမျိုးသမီးလုပ်သားများ၊ အလုပ်လက်မဲ့ အလုပ်သမားများအား ခြံမြေစိုက်ပျိုးရေး နည်းပညာသစ်များ၊ နည်းလမ်းသစ်များဖြင့် ကျွမ်းကျင်စွာ လုပ်ကိုင် ဆောင်ရွက်နိုင်ရန် ကူညီပံ့ပိုးဆောင်ရွက်သွားပါမည်။

HDDES သည် Winrock အကူအညီနှင့် အခြားအစိုးရအဖွဲ့အစည်းများ (ရှိခဲ့လျှင်) ယင်းအဖွဲ့အစည်းများ၏ အကူအညီဖြင့် တောင်သူအဖွဲ့စု အဖွဲ့ငယ် အစည်းအဝေးများ ခေါ်ယူဆွေးနွေး၍ လယ်ယာထွက်ကုန်သစ်များနှင့် ပတ်သက်သည့်တွေးခေါ်ယူဆချက်များကို သိရှိနားလည်စေရန်နှင့် ဝင်ငွေလမ်းကြောင်းသစ်အကြောင်း ယင်းတို့အား ရှင်းလင်းပြောကြားပါမည်။ ထို့ပြင် ဈေးကွက်ဈေးနှုန်းများ မတည်ငြိမ်မှု၊ အပြောင်းအလဲမြန်ဆန်မှုနှင့် မိမိတို့အနေဖြင့် ဈေးနှုန်းများကို အချိန်နှင့်တပြေးညီ နားလည်သိရှိစေရန် တောင်သူလယ်သမား အစုအဖွဲ့ငယ်များအား ပညာပေး ဆွေးနွေးပြောကြားရပါမည်။

ပရောဂျက်အစပထမတွင် တောင်သူများအနေဖြင့် မိမိတို့ရောင်းချမည့်ပစ္စည်းနှင့် ပတ်သက်၍ အရေးအတင် ဈေးစကားပြောရန် အလွန်ခက်ခဲမှုရှိနိုင်ပါသည်။ အစိုးရဘက်မှ မဟာဗျူဟာသတ်မှတ်ချက် တစ်စုံတစ်ရာမရှိလျှင် ပစ္စည်းဝယ်ယူသူများနှင့် ကုန်သည်များသည် သူတို့၏ဝယ်ဈေးကို ကပ်ထားကြမည်။ သူတို့သတ်မှတ်ဈေးထက် ပိုမပေးဟုတင်းခံနေကြသည်။ ဥပမာ - အစိုးရသတ်မှတ်သည့် အနိမ့်ဆုံးဈေးမရှိလျှင် သူတို့သတ်မှတ်သည့် ပေါက်ဈေးဖြင့်သာ ဝယ်ယူကြမည်ဖြစ်သည်။

ဂျင်း၊ ငရုတ်ပွနှင့် နနွင်းတို့၏ လိုအပ်ချက်ကိုကြည့်လျှင် ယင်းပစ္စည်းများ၏ ဈေးနှုန်းအနေအထားသည် ဈေးကွက်တွင် ရိုက်ခတ်နိုင်ပါသည်။ ပထမနှစ်လုပ်ကိုင်ရာတွင် ဂျင်း၊ ငရုတ်ပွနှင့် နနွင်းတို့၏ လိုအပ်ချက်သည်

မက်ထရစ်တန်ချိန် ၁၀၈၀၊ ၂၀၀ နှင့် ၁၈၀ အသီးသီးရှိပါသည်။ ဆယ်နှစ်ခန့်အတွင်း လယ်ယာထွက်ကုန် ထုတ်လုပ်ရေးစက်ရုံတွင် ဂျင်းမက်ထရစ်တန် ၁၇,၀၃၇၊ သစ်ခွစေ့ မက်ထရစ်တန် ၇၅၀၊ ငရုတ်သီး မက်ထရစ်တန် ၂,၅၀၃၊ နနွင်း မက်ထရစ်တန် ၂,၂၅၂၊ ငရုတ်ကောင်းနက် မက်ထရစ်တန် ၅,၀၁၈၊ စံပယ်ပန်းမက်ထရစ်တန် ၂၂,၈၃၅ ၊ ဒန့်သလွန်ရွက် မက်ထရစ်တန် ၂,၇၃၇ နှင့် မြင်းခွာရွက် မက်ထရစ်တန် ၁,၆၅၇ တို့ကို စက်ရုံတွင် ကြိတ်ခွဲထုတ်လုပ်နေမည် ဖြစ်သည်။ သို့ဖြစ်၍ မြန်မာ့တောင်သူအစုအဖွဲ့များ တိုက်ရိုက်အကျိုးဖြစ်ထွန်း ကြပါမည်။ သို့ဖြစ်၍HDDES Natural Products (Myanmar) Ltd . (HDDESNP) သည် မြန်မာနိုင်ငံ၏ အဝယ်ဈေးကွက်တွင် ပစ္စည်းရောင်းဈေးကို တစ်စုံတစ်ရာသော အတိုင်းအတာအထိ ထိန်းချုပ်ထားပါမည်။ယင်းသို့ဈေးနှုန်း တည်ငြိမ်မှုကြောင့် ဆင်းရဲသားတောင်သူများ အလုပ်လက်မဲ့ပြည်သူများ၏ ဝင်ငွေတိုးတက်ရရှိကာ ဘဝအာမခံချက် ရရှိကြပါမည်။

ယခုအချိန်တွင် သီရိလင်္ကာနိုင်ငံရှိ ကျွန်ုပ်တို့၏HDDES Extracts (PVT) Ltd. သည် သီရိလင်္ကာဈေးကွက်၌ လယ်ယာထွက်ကုန်အချို့၏ ဈေးနှုန်းများကို ကမ္ဘာ့ဈေးကွက်နှုန်းအတိုင်း ထိန်းချုပ်ထားနိုင်ပါသည်။ သို့ဖြစ်၍ လယ်ယာထွက်ကုန်များကို ခြံထွက်ဈေးအတိုင်း တည်ငြိမ်မှုရှိကာ ယင်းဈေးနှုန်းကို ကာကွယ်ထားနိုင်ခြင်းအားဖြင့် အလုပ်လက်မဲ့ ပြည်သူများအပါအဝင် တောင်သူများ၏ဝင်ငွေတိုးတက်ရရှိကြမည်ဟု ကျွန်ုပ်တို့ယုံကြည်သည်။ တောင်သူများ၏ ဝင်ငွေမှာ ယခင်ခေတ်ကာလကထက် တိုးတက်ရရှိကြပြီး အလုပ်လက်မဲ့များလည်း အလုပ်ရရှိကြတော့မည်ဖြစ်သည်။ ကျွန်ုပ်တို့သည် လူ့အဖွဲ့အစည်းကို ကောင်းကျိုးပြုကာ ဆင်းရဲချို့တဲ့သူများကို အထောက်အကူပြုပေးနိုင်ခဲ့ပါသည်။ ထို့ပြင် ကျွန်ုပ်တို့သည် USDA သဘာဝပစ္စည်း ထုတ်လုပ်ရေးနည်းလမ်း (Organic Production Method, JAS သဘာဝပစ္စည်း ထုတ်လုပ်ရေးနည်းလမ်း၊ KOSHER လက်မှတ်နှင့် Compliance & Fair Trade Version လက်မှတ်တို့ကို ရရှိရန် စီစဉ်ဆောင်ရွက်လျက် ရှိပါသည်။ ကျွန်ုပ်တို့သည် မြန်မာနိုင်ငံမှ လယ်ယာသဘာဝပစ္စည်းများ (Organic Products) ကို ကမ္ဘာ့ဈေးကွက်တွင် ဈေးကောင်းကောင်း၊ ဈေးမြင့်မြင့်ဖြင့် ဝင်ရောက် ရောင်းချနိုင်ကာ ယင်းရောက်လာငွေများကို ဆင်းရဲသားတောင်သူ လယ်သမားများနှင့် အလုပ်လက်မဲ့ ပြည်သူများအား ခွဲဝေပေးမည်ဖြစ်ပါသည်။

ထို့ပြင် HDDESNP သည် Winrock International နှင့် လက်တွဲဆောင်ရွက်ခြင်းအားဖြင့် မြန်မာနိုင်ငံတွင် လက်ရှိဖြစ်ပေါ်နေသော စီးပွားရေး၊ နိုင်ငံရေး၊ လူမှုရေးပတ်ဝန်းကျင်အခြေအနေများ စိန်ခေါ်မှုများကို တစ်စုံတစ်ရာသော အတိုင်းအတာအထိ ဖြေရှင်းပေးနိုင်ကာလယ်ယာကဏ္ဍတစ်ခုလုံးကို မြှင့်တင်ပေးနိုင်လိမ့်မည်ဟု ယုံကြည်ကြောင်း အလေးအနက်ထားတင်ပြလိုပါသည်။

**ပရောဂျက်သစ်ကို ဆန်းသစ်တီထွင်ခြင်းနှင့် နည်းလမ်းချမှတ်ခြင်း**

အောက်ပါနည်းလမ်းသစ်အရ ပြဿနာများကို ဖြေရှင်းဆောင်ရွက်နိုင်ပါသည်။

(က)မြန်မာနိုင်ငံတွင် တန်ဖိုးမြင့်လယ်ယာပစ္စည်းသစ်များနှင့် မိတ်ဆက်ပေးခြင်း(စက်လုပ်ကိုင်ဆောင်ရွက်ခြင်း)။

(ခ)လယ်ယာထွက်ပစ္စည်းသစ်များ ဖြစ်သော သစ်ခွစေ့များနှင့် စံပယ်ပန်းများကို စီးပွားဖြစ်တန်ဖိုးရှိသောပစ္စည်းများအဖြစ် မြန်မာနိုင်ငံတွင် မိတ်ဆက်ပေးခြင်း (စတင်လုပ်ကိုင်ဆောင်ရွက်ခြင်း)

(ဂ)သစ်ခွနှင့် စံပယ်ပန်းစသည်များကို စီးပွားဖြစ် လယ်ယာထွက်ကုန်သစ်များအဖြစ် လက်ရှိတောင်သူများနှင့် တောင်သူသစ်များ စိုက်ပျိုးနိုင်စေရန် နည်းပညာနှင့် အတတ်ပညာများ သင်ကြားပေးခြင်း။

(ဃ)မြန်မာနိုင်ငံတွင် အထက်ဖော်ပြပါ လယ်ယာထွက်ကုန်များ ထုတ်လုပ်နိုင်ရေးအတွက် ကမ္ဘာ့ထိပ်တန်းအတိုင်ပင်ခံပုဂ္ဂိုလ်များ၏ အကူအညီဖြင့် ဆောင်ရွက်၍ မြန်မာအလုပ်သမားများအား ကျွမ်းကျင်လုပ်သားများဖြစ်အောင် လေ့ကျင့်သင်ကြားပေးခြင်း။

(င)ဘင်္ဂလားဒေ့(ရှ်) အမျိုးသမီးအဖွဲ့ ငယ်ပုံစံနှင့် အလားတူ Winrock International ၏ ကူညီပံ့ပိုးမှုဖြင့်တောင်သူအုပ်စုငယ်များ ဖွဲ့စည်းကာ အလုပ်အကိုင်အခွင့်အလမ်းနည်းပါးသည့် တောင်သူများ အပါအဝင်တောင်သူအစုအဖွဲ့များအား လွယ်ကူစွာ လယ်ယာထွက်ကုန်ပစ္စည်းသစ်များ သိရှိနားလည်အောင်ပြုလုပ်ပေးခြင်း၊ယင်းတို့၏ ဝင်ငွေတိုးပွားအောင် ဆောင်ရွက်ပေးခြင်း၊ ဈေးကွက်ဈေးနှုန်းသိရှိစေပြီး မိမိပစ္စည်းကို ထိုက်တန်သော ဈေးရရှိအောင် ဈေးခေါ်ပြောဆိုနိုင်ခြင်း။

(စ)ကမ္ဘာ့ဈေးကွက်တွင် မြန်မာနိုင်ငံမှ ကုန်ပစ္စည်းတင်သွင်းသူ ပုဂ္ဂိုလ်သစ်က တန်ဖိုးမြင့်ပစ္စည်းသစ်များတင်သွင်းခြင်း ယခုအချိန်တွင် ဂျင်း၊ နနွင်းနှင့် ငရုတ်ပွ စသည့်တန်ဖိုးမြင့် ကုန်စည်များကို အိန္ဒိယနိုင်ငံက ကမ္ဘာ့ဈေးကွက်သို့ အများဆုံးတင်ပို့ ရောင်းချလျက်ရှိပါသည်။ စံပယ်ဆီတင်သွင်းရာတွင်ပါ ထိပ်တန်းက ရပ်တည်နေသည့်နိုင်ငံဖြစ်သည်။ ကျွန်ုပ်တို့ မြန်မာနိုင်ငံကလည်း ကမ္ဘာ့စားသောက်ကုန်များတွင် အနံ့အရသာထူးခြား အောင် ဖြည့်ဆည်းပေးသည့် လုပ်ငန်းဆောင်ရွက်၍ ကမ္ဘာ့ဈေးကွက်သို့ မျက်နှာသစ်ပစ္စည်းတင်သွင်းသူအဖြစ် ဝင်ရောက်ရောင်းချနိုင်ပါသည်။

(ဆ)သစ်ခွနှင့် စံပယ်စိုက်ပျိုးတောင်သူများအား လယ်ယာလုပ်ငန်းဆိုင်ရာ အလေ့အထကောင်းများချမှတ်ပေးခြင်းဖြင့် သယံဇာတပစ္စည်းများအသုံးပြုမှုလျှော့ချရေးနှင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုနည်းပါးရေးနည်းလမ်းများကိုသိရှိစေနိုင်ပါသည်။

(ဇ)ဂျင်း၊ ငရုတ်ပွ၊ နနွင်းနှင့် သစ်ခွစိုက်ပျိုးရေး သဘာဝလယ်ယာကိုင်းကျွန်းလုပ်ငန်းကို ကိုယ်တိုင်ဆောင်ရွက်ခြင်း။

(ဈ)မြန်မာနိုင်ငံတွင် စီးပွားဖြစ်တန်ဖိုးမရှိဘဲ ပေါပေါများများ ဆွတ်ခူးရရှိနိုင်သည့် မြင်းခွာရွက်နှင့်ဒန့်သလွန်ရွက်ပစ္စည်းနှစ်မျိုးကို ပြည်ပဈေးကွက်သို့ တင်ပို့ရောင်းချနိုင်ပါသည်။ ဤနည်းဖြင့် အချည်းနှီးဖြစ်နေသောပစ္စည်းများကိုတန်ဖိုးမြင့်သည့်စီးပွားဖြစ် ကုန်ပစ္စည်းများအဖြစ် ထုတ်လုပ်ရောင်းချနိုင်သည့်အခွင့်အလမ်းကောင်းများရှိပါသည်။

အထက်ဖော်ပြပါ ဆန်းသစ်သော အကြံဉာဏ်နှင့် တွေးခေါ်မြော်မြင်မှု သဘောထား အယူအဆတို့အရ ကုမ္ပဏီ၏ ပြင်ပလူမှုရေးနှင့် ဈေးကွက်အခြေအနေများသည် အောက်ပါအတိုင်းပြောင်းလဲဖြစ်ပေါ် လာပေလိမ့်မည်။

(က)ပရောဂျက်၏ အရေးကြီးသော သတင်းကို ကုမ္ပဏီပြင်ပသို့ ရောက်ရှိသိရှိနိုင်အောင် စနစ်တကျ စီစဉ်ဆောင်

Annexure (6-C)

## HDDES Natural Products (Myanmar) Ltd.
## ဈေးကွက်စီမံချက်

### လက်ရှိလုပ်ငန်းဆောင်ရွက်မှု

HDDES အဖွဲ့သည် သဘာဝအရင်းအမြစ်များမှ တန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ရာတွင် ဦးဆောင်ခဲ့ပြီး ယင်းပစ္စည်း ထုတ်လုပ်ခြင်းနှင့် ပြည်ပတင်ပို့ခြင်းကို နှစ်ပေါင်း (၄၀)ခန့် လုပ်ကိုင်ဆောင်ရွက်ခဲ့ပါသည်။ အစပထမတွင် ကုမ္ပဏီသည် အလွန်အဆင့်မြင့်၊ အရည်အသွေးမြင့်မားသော သစ်ကြံပိုးကို ပြည်ပသို့ ဦးဆောင်တင်ပို့သည့် ကုမ္ပဏီ ဖြစ်သည်။ အစဉ်အလာအရ အရေးပါပြီး မရှိမဖြစ်သည့် သစ်ကြံပိုးဆီနှင့် အခြားဟင်းခတ် အမွှေးအကြိုင်များကို နိုင်ငံတကာဈေးကွက်သို့ တင်ပို့ပေးခဲ့ပါသည်။ ထိုအချိန်ကာလများအတွင်း ကုမ္ပဏီစတင်ဖွဲ့စည်း တည်ထောင်သူသည် ကျွန်ုပ်တို့၏ သဘာဝသယံဇာတပစ္စည်းများကို တန်ဖိုးမြှင့်အဆင့်မြင့် ကမ္ဘာ့ဈေးကွက်သို့ ပေါက်မြောက်သွားသည့် အခွင့်အလမ်းကောင်း၊ အခွင့်ကောင်းများစွာ ရရှိခဲ့ပါသည်။ ကုမ္ပဏီပိုင်ရှင်သည် သူ၏ အတွေ့အကြုံ အတွေးအမြင် အပေါ် အခြေခံ၍ ကုမ္ပဏီသစ်ဖြစ်သော HDDES Extract (Pvt) Ltd အဖြစ် ကုန်မျိုးစုံထုတ်မဟာဗျူဟာ (diversification strategy) နှင့် လျော်ညီစွာ ၂၀၀၁ ခုနှစ်တွင် ဖွဲ့စည်းခဲ့ပါသည်။

ကုမ္ပဏီ၏အဓိက ရည်မှန်းချက်မှာ ကမ္ဘာ့ဈေးကွက်သို့ အရည်အသွေးအလွန်ကောင်းသော တန်ဖိုးမြှင့် သဘာဝကုန်ပစ္စည်းများ တင်ပို့၍ နိုင်ငံအတွက် နိုင်ငံခြားငွေရှာဖွေပေးနိုင်ရန်နှင့် ခေတ်မီလယ်ယာ စိုက်ပျိုးရေး နည်းလမ်းများ တိုးတက်ဖွံ့ဖြိုးစေရန် ဉာဏ်ရည်ထက်မြက်သော လူငယ်များ အလုပ်အကိုင် အခွင့်အလမ်းသစ်များ ရရှိနိုင်စေရန်၊ လူမှုရေးဘဝ မြှင့်တင်ရန်နှင့် ပတ်ဝန်းကျင် အခိုးအငွေ့ညစ်ညမ်းမှုကို လျှော့ချနိုင်ရန် ဖြစ်သည်။

အထက်ပါရည်ရွယ်ချက်များကို အလေးအနက် ချမှတ်ထားပြီးနေသော ကုမ္ပဏီသုတေသနနှင့် ဖွံ့ဖြိုးရေးအဖွဲ့ (Research & Development Team) က လက်ရှိတင်ပို့နေသည့် တန်ဖိုးမြှင့်ကုန်ပစ္စည်းများအပြင် စားသောက်ကုန်၊ အဖျော်ယမကာ၊ အလှကုန်များ၊ ဆေးဝါးပစ္စည်းများနှင့် လိမ်းဆေးဆီမွှေးတို့ကိုပါ ပြည်ပလုပ်ငန်းအသီးသီးသို့ တင်ပို့ရန် တိုက်တွန်းအကြံပြုထားပါသည်။

### အဓိကကုန်ပစ္စည်းသစ်များ

**ပဓာနဆီအမျိုးအစား**

- ဂျင်းဆီ
- ငရုတ်ကောင်းအနက်ဆီ
- ငရုတ်ဆီ
- နနွင်းဆီ
- သစ်ခွသဘာဝအရသာနှင့် သစ်ခွဆီနှစ်
- Moronaga နှင့် မြင်းခွာရွက်
- စံပယ်ဆီ

**ဂျင်းအမျိုးအစား**

ဂျင်ဂျာဂျင်း
ငရုတ်ကောင်းနက်ဂျင်း
ငရုတ်သီး/ နနွင်းဂျင်း

### ထုတ်လုပ်ရေး အထောက်အကူပြုပစ္စည်းများနှင့် အရည်အသွေးစံနှုန်း

ကုမ္ပဏီ၏အဓိကစွမ်းအားမှာ အလွန်ခေတ်မီစွာ ထက်မြက်သော ယန္တရားတပ်ဆင် ဆောက်လုပ်ထားသည့် Harana ရှိ ရင်းနှီးမြှုပ်နှံမှုဇုံ (Board of Invesement Zone) ၌တည်ရှိသော ဓာတ်ခွဲစမ်းသပ်သည့် ဓာတ်ခွဲခန်း

ဖြစ်သည်။ ယင်းဓာတ်ခွဲခန်းက ထုတ်လုပ်သည့် ပစ္စည်းများကို နိုင်ငံတကာ စံချိန်မီပစ္စည်းများ၊ အရည်အသွေး ကောင်းမွန် စိတ်ချရသော အန္တရာယ်ကင်းသော ပစ္စည်းများ ထုတ်လုပ်နိုင်အောင် တိကျစွာ စစ်ဆေးပေးနိုင်သည်။

ထို့ပြင် ကုမ္ပဏီသည် အစားအသောက် အန္တရာယ်ကင်း စီမံအုပ်ချုပ်မှု၊ အရည်အသွေး စီမံအုပ်ချုပ်မှု စံချိန်မီသောကြောင့် ISO 22000:2005 နှင့် ISO 9001:2008 နှင့် ညီညွတ်သဖြင့် GMP နှင့် HACCP လက်မှတ်များ ချီးမြှင့်ခံရပါသည်။

**အဖွဲ့အစည်းအသီးသီး၏အမျိုးသားရေးထောက်ခံ အသိအမှတ်ပြုခြင်း**

သီရိလင်္ကာ၏ စီးပွားရေးကို ပစ္စည်းတန်ဖိုးမြှင့်နည်းလမ်းဖြင့် ကြိုးပမ်းဆောင်ရွက်ခဲ့ခြင်းကြောင့် သီရိလင်္ကာ နိုင်ငံရှိ အဖွဲ့အစည်းအသီးသီးက ဤကုမ္ပဏီအား ထောက်ခံအားပေး အသိအမှတ်ပြုကြပါသည်။ ကုမ္ပဏီအား ချီးမြှင့်ဂုဏ်ပြုသည့် ဆုအချို့မှာ -

- NCE Export Awards – 2010 - Gold Award, Agriculture Value Added တန်ဖိုးမြှင့် - Large Category (အကြီးစားကြိုးပမ်းဆောင်ရွက်မှု)
- NCE Export Awards - 2011 - Gold Award, Agriculture Value Added တန်ဖိုးမြှင့် - Large Category (အကြီးစားကြိုးပမ်းဆောင်ရွက်မှု)
- NCE Export Awards - 2012 - Gold Award, Agriculture Value Added တန်ဖိုးမြှင့် - Large Category (အကြီးစားကြိုးပမ်းဆောင်ရွက်မှု) စသည်တို့ဖြစ်သည်။

ကျွန်တော်တို့သည် ကုမ္ပဏီဈေးကွက်စီမံချက်အတွက် အောက်ပါ ထုတ်ကုန်အသစ်များနှင့် လက်ရှိ လုပ်ကိုင်နေသည့် ထုတ်ကုန်အချို့ကိုသာ အဓိက အာရုံစူးစိုက်လုပ်ကိုင်မည် ဖြစ်ပါသည်။

- သစ်ခွသဘာဝအနံ့အရသာနှင့် ဂျင်း
- ရေတိကောင်းနက်ဆီနှင့် ဂျင်း
- ရေတိဆီနှင့် ဂျင်း
- ဂျင်ဂျာဂျင်းဆီနှင့်ဂျင်း
- နနွင်းဆီဂျင်း

**သစ်ခွနှင့် သစ်ခွအဆီအနှစ်**

- **ဈေးကွက်အလားအလာ**

သစ်ခွသည် ကုံကုမံပြီးလျှင် ဒုတိယတန်ဖိုးအကြီးဆုံး ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် သစ်ခွပျိုးပင် ကလေးများကို စိုက်ရာတွင် လုပ်အားများစွာ စိုက်ထုတ်ရသောကြောင့် ဖြစ်သည်။ ကုန်ကျမှုများသော်လည်း သစ်ခွသည် ယင်း၏အနံ့အရသာထူးခြားမှုကြောင့် အထူးတန်ဖိုးထားပါသည်။ လွန်ခဲ့သော နှစ်များအတွင်း သစ်ခွအတု စိုက်ပျိုးခြင်း ခေတ်စားလာသည်။ ကမ္ဘာ့ကူးသန်းရောင်းဝယ်ရေးတွင် ပြပြင်ထားသော သစ်ခွစေ့ တန်ချိန် - ၂,၀၀၀ သို့မဟုတ် သစ်ခွဆီအနှစ်တန်ချိန်- ၅၀ခန့် အရောင်းအဝယ် ဖြစ်နေချိန်တွင် ၂၀၁၀ခုနှစ်အတွင်း သစ်ခွအတုတန်ချိန် ၅၀, ၀၀၀ ကျော် ကမ္ဘာ့ဈေးကွက်တွင် ရောင်းချရပါသည်။ ကမ္ဘာအနံ့ကုမ္ပဏီများသည် ဈေးသက်သာစွာ ဝယ်နိုင်သည့် ဓာတုဗေဒနည်းဖြင့် စီရင်ထားသည့် သစ်ခွအတုကို ပို၍နှစ်သက်ကြပါသည်။

သမိုင်းစဉ်အရကြည့်လျှင် မြောက်အမေရိကသည် သစ်ခွဝယ်လိုအားကို အာရုံစိုက်သုံးသပ်လေ့ ရှိပါသည်။ ထိုမျှလောက်များပြားခြင်းမရှိသည့်တိုင် ဥရောပနှင့် ဂျပန်နိုင်ငံတို့တွင် သစ်ခွရောင်းဝယ်ဖောက်ကားမှု ရှိပါသည်။ ယခုအချိန်တွင်မူ ဈေးကွက်အများအပြား ထွက်ပေါ်လာပါသည်။ တရုတ်နှင့် တောင်အမေရိကနိုင်ငံများက အနံ့အရသာကို နှစ်မြို့က်လာကြသကဲ့သို့ ဖွံ့ဖြိုးဆဲနိုင်ငံဈေးကွက်တွင်လည်း အဝယ်လိုက်သည်ကို တွေ့ရှိရပါသည်။ ထိပ်တန်းကမ္ဘာ့ဝေဖန်သုံးသပ်ရေး ပုဂ္ဂိုလ်တစ်ဦးဖြစ်သော (Van der Walde) က ကမ္ဘာ့သစ်ခွဝယ်လိုအားမှာ တစ်နှစ်လျှင် တန်ချိန် ၂၅၀၀ - ၃၀၀၀ ခန့်ရှိနေပြီး နောင်တွင် ဒီထက်မက ပို၍ဝယ်ယူရန် အခြေအနေရှိကြောင်း ဝေဖန်သုံးသပ်ပါသည်။ ကမ္ဘာ့ဒေသအားလုံးတွင် သစ်ခွကိုသိသိသာသာ တိုးမြှင့်စိုက်ပျိုးထုတ်လုပ်လာကြပြီး အထွက်တိုးလာလိမ့်မည်ဟု ဖြည့်စွက်ဝေဖန် ပြောကြားပါသည်။

တရုတ်နိုင်ငံတွင် သစ်ခွကို အစားအသောက်များ၊ ဆေးလိပ်နှင့် ရေမွှေး စသည် ထုတ်ကုန်များတွင် အသုံးပြုပါသည်။ တရုတ်တို့သည် ဈေးနှုန်းနှင့်ပတ်သက်၍ အလွန်ဇီဇာကြောင်တတ်သည်။ သစ်ခွကို Madagascar ထက် ဈေးပေါသည့် ပပွာနယူးဂီနီ (Papua New Guinea) နှင့် အင်ဒိုနီးရှားနိုင်ငံတို့မှ ဝယ်ယူကြသည်။ သို့ရာတွင် တရုတ်နိုင်ငံတွင် ကုန်အမှတ်တံဆိပ်ကို အလေးထား ဝယ်ယူသူများလည်းရှိရာ ထိုသူများကမူ Madagascar သစ်ခွကိုသာ ဝယ်ယူကြသည်။

**ဂျာမနီဝယ်လိုအား**

ဂျာမနီနိုင်ငံတွင် သစ်ခွအဝယ်လိုက်ခြင်းမှာ Madagascar မျိုးကို လယ်သမားအချို့ ဈေးကောင်းကောင်း၊ တန်ဖိုးမြင့်မြင့်ဖြင့် စတင်ရောင်းချချိန်မှစ၍ ဂျာမန်တို့သည် သစ်ခွမျိုးစေ့အစိုကို မရမက အလုအယက် ဝယ်ယူသောကြောင့် ဖြစ်သည်။ သို့ဖြစ်၍ အနာဂတ်ကာလတွင် ဂျာမန်တို့၏ ဝယ်လိုအား (demand) ကြောင့် အနာဂတ်တွင် သစ်ခွဈေးတက်ရန် တွန်းအားပေးသကဲ့သို့ဖြစ်နေပေသည်။

**လက်ရှိဈေးကွက် ဈေးနှုန်းနှင့် ခန့်မှန်းဈေးကွက်နှုန်း**

အရှေ့အာရှရှိ သစ်ခွများအား ၂၀၀၀ ခုနှစ် ဆိုင်ကလုန်းမုန်တိုင်း တိုက်ခိုက်ခံရပြီးနောက် ကမ္ဘာ့သစ်ခွဈေးနှုန်း သိသိသာသာ မြင့်တက်သွားသည်။ တင်သွင်းသည့် ရောင်းအား ကျသွားသည်နှင့် သစ်ခွဈေးသည် တစ်ကီလိုလျှင် အမေရိကန်ဒေါ်လာ ၄၀၀ မှ ၅၀၀ အထိ တိုးတက်သွားသောကြောင့် အထူးလူကြိုက်များလှသော ပစ္စည်းကို ရရှိနိုင်ရန် ဈေးကွက်သစ်ကို အလုအယက် ရှာဖွေကြပြန်သည်။ တောင်သူအများစုသည် ဤအတွေးအခေါ်အယူအဆ အတိုင်း တွေးခေါ်၍ ဈေးကွက်သစ်ကို စူးစမ်းရှာဖွေကြသည်။ သို့ရာတွင် သစ်ခွ၏ ရောင်းအားက ဝယ်အားထက် ပိုလာပြန်သည်။ ထို့ကြောင့် ၂၀၁၀ ခုနှစ်တွင် သစ်ခွတစ်ကီလိုလျှင် အမေရိကန်ဒေါ်လာ ၂၅ ဒေါ်လာသာရှိတော့သည်။ သို့ဖြစ်၍ တောင်သူများသည် ဈေးကွက်ပျက်ပြီး စားရေးသောက်ရေးအတွက် ဝင်ငွေမရတော့မည်ကို ပူပန်ကြသည်။ သို့ရာတွင် ယခုအချိန်တွင် ဈေးပြန်တက်လာပြန်သည်။ မိုးခေါင်ခြင်း၊ မိုးတက်ခြင်းတို့ကြောင့် သစ်ခွဈေးကျဆင်းသွားသဖြင့် သစ်ခွထုတ်လုပ်သူ တောင်သူအများစုက သစ်ခွမရောင်းကြတော့ပေ။ သို့ဖြစ်၍ သစ်ခွရှားသွားပြန်သဖြင့် တစ်ကီလိုလျှင် အမေရိကန်ဒေါ်လာ ၃၅၀- ၄၀၀ အထိ ဈေးတက်လာပြန်သည်။ သို့ဖြစ်၍ သစ်ခွများကို စုဆောင်းကြပြန်သောကြောင့် ရောင်းလိုအား (supply) ကျသွားမည်ကို စိုးရိမ်ကြပြန်သည်။

မည်သို့ပင်ဖြစ်စေ ၂၀၁၆ ခုနှစ် နှောင်းပိုင်းတွင် အခြေအနေကောင်းမည် မဟုတ်ဟု ထင်နေခြင်းသည် လက်တွေ့မကျကြောင်း သစ်ခွဝယ်လိုအားမှာ ခိုင်မာဆဲဖြစ်ကြောင်း ဝေဖန်သုံးသပ်မှုအချို့က ထင်မြင်ချက်ပေးကြပါသည်။ ယင်းဝေဖန်ရေးသမားများက "၂၀၁၄ ခုနှစ်ကကဲ့သို့ အမေရိကန်ဒေါ်လာ ၅၀၀ မှ ဒေါ်လာ ၅၀ သို့ ထိုးကျသွားမည် မထင်ကြောင်း၊ ထိုစဉ်က ဈေးကွက်နှင့် ယခုဈေးကွက်မတူကြောင်း ဝယ်လိုအားမှာ အထူးမြင့်တက်လျက်

ရှိကြောင်း၊ ဈေးကျမည်ဆိုလျှင်တောင် ၁၀%မှ ၁၅% အထိသာ သင့်တင့်စွာကျပြီး ၂၀၁၇ ခုနှစ်ထပ်ကျလျှင်ပင် လူတိုင်း သည်းခံနိုင်ဖွယ်ရှိသည့် ကျဆင်းမှုမျိုးကိုသာ တွေ့ရှိနိုင်ပါသည်။ တောင်သူများအပါအဝင် သူသူငါငါ လူတကာ အတွက် ဘေးအန္တရာယ်ကြီး ဖြစ်လောက်အောင် ဆိုးရွားမည်မဟုတ်ကြောင်း” ဝေဖန်သုံးသပ်ကြပါသည်။

Madagascar ၏ ၂၀၁၆-ခုနှစ် သစ်ခွအထွက်ကောင်းမည်ဟု ခန့်မှန်းထားသဖြင့် သစ်ခွဈေးနှုန်း ဆက်တက် လိမ့်မည် မဟုတ်ဟု သစ်ခွကုန်သည်များက မျှော်လင့်ထားကြပြီပါသည်။

အကောင်းဆုံးအခြေအနေမှာ တောင်သူများ၏ အကျိုးစီးပွားကို မထိခိုက်စေနိုင်သော ဈေးနှုန်းအဆင့် အထိသာ ကျဆင်းပြီး တစ်ဘက်မှကြည့်လျှင်လည်း ဝယ်လိုအား ကျဆင်းမသွားစေသော အဆင့်တွင် ရပ်တည်နေရန် ဖြစ်သည့် အမှန်ဝယ်ယူသုံးစွဲသူများ သစ်ခွအသုံးပြုရာခိုင်နှုန်း လျော့ကျမသွားစေရန်နှင့် သစ်ခွအစား အခြားပစ္စည်း အစားထိုး သုံးစွဲအခြေအနေသို့ ရောက်သော်လည်း ဈေးနှုန်းမတက်ရန် လိုအပ်ပါသည်။

**ဤနှစ်အတွင်း နိုင်ငံတကာ သစ်ခွဈေးနှုန်း အလွန်မြင့်တက်သွားသဖြင့် ကုန်သည်များက နောင်အနာဂတ်တွင် ပို၍လက်တွေ့ကြသော ဈေးနှုန်းသို့ ကျသွားနိုင်လိမ့်မည်ဟု မျှော်လင့်နေကြပါသည်။**

**တစ်ခြားပစ္စည်း (အစားထိုးကုန်ပစ္စည်း)**

(က) သစ်ခွသီးတောင့်အစစ်

(ခ) သဘာဝသစ်ခွပစ္စည်း ပါဝင်သည်။ သို့ရာတွင် သစ်ခွအတောင့်မှ ထွက်လာခြင်းမဟုတ်။
(ဆန်တွင်အချဉ်ဖောက်၍ သန္ဓေမျိုးယူထားခြင်းဖြစ်သည်။)
ဤပစ္စည်းကို သဘာဝသစ်ခွနှင့် အလားတူသတ်မှတ်ပြီး သဘာဝအရသာအတိုင်း ဖြစ်စေလိုသည့် အစားအသောက်တွင် အနည်းငယ်ထည့်၍ အသုံးပြုနိုင်သည်။ သဘာဝအရသာအတိုင်း ခံစားနိုင် သည်။

(ဂ) ဓာတုပစ္စည်းဖြင့် အတုလုပ်ထားသည့် သစ်ခွကိုအသုံးပြု၍ သစ်ခွပစ္စည်းများ ထုတ်လုပ်ခြင်း

**ဝယ်လိုအားသစ်ဖန်တီးခြင်း - ကမ္ဘာ့အခွင့်အလမ်းသစ်များ ဖော်ဆောင်ခြင်း**

နောက်ဆုံးတွင် ဈေးကွက်၌ သစ်ခွတု ဝယ်လိုအား တက်လာသည်ကို တွေ့ရပါမည်။ သစ်ခွတုကို သစ်ခွ ထွက်ပစ္စည်းအများစုတွင် အသုံးပြုလျက်ရှိပြီး ယင်းသို့သုံးစွဲရာတွင် သဘာဝပစ္စည်းလောက် အနံ့အရသာတွင် မမှီသော် လည်း သစ်ခွတုထုတ်လုပ်ရာ၌ အကုန်အကျ သက်သာစွာဖြင့် ရရှိနိုင်ပါသည်။ သစ်ခွတုထုတ်လုပ်ရေး လုပ်ကြိုက်များ လာခြင်းသည် သဘာဝသစ်ခွဈေးကွက်တွင် ဈေးကျဆင်းစေပါသည်။ သို့ရာတွင် ယခုနှစ်များအတွင်း ဝယ်ယူအသုံးပြု သူက သစ်ခွတုတွင် အသုံးပြုသော ဓာတုပစ္စည်းများနှင့် ပတ်သက်၍ စိုးရိမ်ကြောင့်ကြစိတ် ဖြစ်ပေါ်လာပြီး သဘာဝ ပစ္စည်းစစ် ပစ္စည်းမှန်ကို အသုံးပြုလိုစိတ်ရှိလာတတ်ကြပါသည်။ သို့ဖြစ်သောကြောင့် လာမည့်နှစ်များအတွင်း “သဘာဝ သစ်ခွနှင့် သစ်ခွတု” တို့ အခြေအတင်ဖြစ်ပေါ်မှု၏ ရလဒ်သည် သစ်ခွဈေးကွက်အပေါ် အဆုံးအဖြတ်ပေးမည့် အဓိက သော့ချက် ဖြစ်ပေသည်။

သို့ရာတွင် စားသုံးသူအများပြည်သူက သဘာဝအစားအသောက်နှင့် သဘာဝအဖျော်ယမကာ၊ အဖျော်ရည် များကို ပိုမိုစားသုံးလာခြင်းကြောင့် ရိုးရာသဘာဝသစ်ခွစေ့များ တဖန်ပြန်လည် ဆန်းသစ်လာပါသည်။ ယမန်နှစ်မှစ၍ General Mills, Hershey’s, Kellogg’s နှင့် Nestlé တို့အပါအဝင် အစားအသောက် ကုမ္ပဏီကြီးများစွာက အနံ့

အရသာတုများနှင့် အခြားဖြည့်စွက်ပစ္စည်းတုများ မထည့်ရန်၊ အမေရိကန်ပြည်ထောင်စု၌ ရောင်းချသော ပစ္စည်းများတွင် ပစ္စည်းတု၊ အနံ့အရသာတုများ၊ ထည့်သွင်းရောင်းချခြင်းမပြုရန် တားမြစ်ခဲ့ပါသည်။

ဤတွင် ပြဿနာရှိလာပါသည်။ သဘာဝသစ်ခွ ကမ္ဘာ့အထွက်နှုန်းမှာ အလွန်နည်းပါးသည်။ ယခုနှစ်များအတွင်း ထုတ်လုပ်အား ကျဆင်းနေပါသည်။ သဘာဝသစ်ခွမှ ရရှိသည့် အနံ့အရသာအစစ်သည် ၁% မျှပင် မရှိပါ။ ဝယ်လိုအားမှာ မြင့်တက်လျက်ရှိပြီး ရောင်းဝယ်ရေးခွင်တွင် တစ်ဘက်စောင်းနင်းဖြစ်ကာ ဟန်ချက်ပျက်နေပါသည်။

အနံ့အရသာကို အားပြုလုပ်ကိုင်နေကြသည့် ကုမ္ပဏီကြီးများသည် သဘာဝသစ်ခွ ရရှိနိုင်မည့် အခြားအရင်းအမြစ်များ နည်းလမ်းများကို ကြိုးပမ်းရှာဖွေလျက် ရှိကြပြီး သစ်ခွစေ့အရေအတွက် များများနှင့် အရည်အသွေးကောင်းကောင်း တိုးမြှင့်ရရှိနိုင်အောင် ရှေ့ဆောင်ရှေ့ရွက်ပြု၍ အားထုတ်လုပ်ကိုင် ဆောင်ရွက်လျက်ရှိကြပါသည်။ ပစ္စည်းပေးသွင်းသူများဖြစ်သော Symrise, International Flavours & Fragrances (IFF), Solvay နှင့် Borregaard ကုမ္ပဏီများသည် မိမိတို့၏ ကျွမ်းကျင်ပညာရှင်များကို အသုံးပြု၍ အစားအသောက်လုပ်ကိုင် ဆောင်ရွက်သူများက အစားအသောက်တိုင်းတွင် အကောင်းဆုံးသစ်ခွအရသာ ပေါ်လွင်အောင် စီမံပြုလုပ်ရန် တိုက်တွန်းအားပေးလျက်ရှိကြပါသည်။

စားသုံးသူများဘက်မှ ပစ္စည်းတုများ မနှစ်သက်ကြောင်း၊ နှစ်များစွာကတည်းက ပြောကြားလာချိန်တွင် Nestlé ကုမ္ပဏီကလည်း ယင်းထုတ်လုပ်သည့် ပစ္စည်းများတွင် အားလုံးသဘာဝပစ္စည်းများသာ ဖြစ်ရမည်ဟု ကြွေးကြော်လာသည်။ အမေရိကန်ပြည်ထောင်စု၌ ယင်းရောင်းချသည့် ချောကလက်တွင် ပစ္စည်းတုများပါဝင်ခြင်းမရှိစေရဟု ထုတ်ပြန်ကြေညာခဲ့သည်။ ယင်းသို့ထုတ်ပြန်လိုက်ခြင်းကြောင့် ချောကလက်တွင်ပါဝင်သည့် ကိုကိုး (Cocoa) ၏ အခါးဓာတ်ကို ဖုံးပစ်သည့် သစ်ခွတုမှာ မပါဝင်တော့မည်။ ချောကလက် ထုတ်လုပ်ရာတွင် သစ်ခွတု မပါဝင်တော့ချေ။ ယင်းသို့ Nestlé က သဘာဝပစ္စည်းကိုသာ အသုံးပြုမည်ဖြစ်ကြောင်း ကြေညာလိုက်ခြင်းအားဖြင့် သဘာဝသစ်ခွ အသုံးပြုရေးလမ်းကြောင်းကြီးကို ဖွင့်လိုက်ခြင်းဖြစ်သည်ဟု အနံ့အရသာ ဈေးကွက်သုတေသန ကုမ္ပဏီ Leffingwell & Associates ကုမ္ပဏီဥက္ကဋ္ဌဖြစ်သူ John Leffingwell ကဝေဖန်သုံးသပ်သည်။ Nestlé သည် အကြီးဆုံးကုမ္ပဏီဖြစ်ခြင်းကြောင့် အခြားကုမ္ပဏီများကလည်း ယင်း၏ကြေညာချက်အတိုင်း လိုက်နာဆောင်ရွက်ကြရတော့မည်သာဖြစ်သည်။

**မြိမ်းခြောက်မှုသစ်ကြီးများ၊ ဖြစ်နိုင်ခြေရှိသော ပြင်းထန်သည့်မုန်တိုင်း**

လေ့လာဆန်းသစ်သူ တစ်ချို့က "၂၀၁၇ ခုနှစ်တွင် Madagascar ၌ သီးနှံမုန်တိုင်းကြီးပေါ်လာပြီး ယူဂန္ဓာ၊ အင်ဒိုနီးရှား၊ အိန္ဒိယနှင့် ပါပွာနယူဂီနီ (Papua New Guinea) တို့တွင် ထုတ်လုပ်မှု တိုးမြှင့်လာကြလိမ့်မည်ဖြစ်ကြောင်း" သုံးသပ်ပြောဆိုကြသည်။ ဤသို့ဖြစ်ရခြင်းမှာ မိမိတွင် ပစ္စည်းလိုသည်ထက် ပိုနေလျှင် ပစ္စည်းဈေးနှုန်းထိုးကျသွားနိုင်သည်။ သစ်ခွနှင့်ပတ်သက်ပြီး ယင်းသို့မှာကာခဏ ဈေးကျသွားလေ့ရှိပါသည်။ အကြောင်းရင်းမှာ စက်မှုလုပ်ငန်းရှင် - အဝယ်တော်များသည် ယင်းတို့၏ ပစ္စည်းဈေးနှုန်းကျရိုက်ရှိလျှင် နှစ်ရှည်ချုပ်ထားသည့် စာချုပ်များကို ရုတ်သိမ်းပြီး ကာလတိုအတွက်ကိုသာ ဝယ်ယူကြသည်။ ထိုအခါ ထုံးစံအတိုင်း ဝယ်လိုအား အလိုလျောက် ကျဆင်းသွားသည်" ဟု ဝေဖန်သုံးသပ်ကြပါသည်။ မည်သို့ပင်ဖြစ်စေ ဝယ်လိုအားကျဆင်းမှုမှာ သိပ်မကြာလှပါ။ ကမ္ဘာ့ဝယ်လိုအား တက်လာသည်ကို တွေ့ရှိလာသည်။ ယခင်ကထက်ပင် ပစ္စည်းဝယ်လိုအားမှာ ကမ္ဘာ့အနံ့ဝယ်လိုအား ပျံ့နှံ့လာကြောင်း ဆန်းစစ်သုံးသပ်သူများက ဝေဖန်သုံးသပ်လျက်ရှိကြပါသည်။

သို့ရာတွင် ထိန်းချုပ်၍မရနိုင်သော မမျှော်မှန်းနိုင်သည့် ဖြစ်စဉ်ဖြစ်ရပ် အခြေအနေများလည်းရှိနေကြောင်း သတိပေးပါသည်။

ယင်းအကြောင်းတရားများတွင် Madagascar ၌ ဆိုင်ကလုံးမုန်တိုင်း ကျတတ်ပြီး ၂၀၁၈ ခုနှစ်တွင် သမ္မတရွေးကောက်ပွဲ အခြေအနေရလဒ်က မည်သို့ရှိမည်ဆိုသည်ကို မျှော်မှန်း၍ မရတော့ပါ။ ပစ္စည်းထုတ်လုပ်ရေးတွင် မည်သို့ဖြစ်လာမည်ကို ခန့်မှန်း၍ မရသေးပါ။

ပါဝင်ပတ်သက်နေသည့် လုပ်ငန်းရှင်များအနေဖြင့် လာမည့်လများအတွင်း ဈေးကွက်မည်သို့ပွင့်လာမည်ကို စောင့်ကြည့်ရန် လိုအပ်သကဲ့သို့ မည်သည့်ဈေးနှုန်းလမ်းကြောင်း ဖြစ်ပေါ်လာမည်ကိုလည်း အလေးထား လေ့လာကြည့်ရှုရန် လိုအပ်ပါသည်။

**ရေှတ်ကောင်းနက်ဆီနှင့် ရေှတ်နှစ်**

**ဈေးကွက်အလားအလာ**

ရေှတ်ကောင်းနက် ဈေးကွက်ကို အသင့်စားသုံးရန် ပြုပြင်ပြီး စားသောက်ကုန်ထုတ်လုပ်ငန်း တိုးတက်မှုက တိုက်ရိုက် လွှမ်းမိုးထားပါသည်။ ဖုတ်ရသော ကုန်ပစ္စည်းများ၊ မုန့်လုပ်ငန်းများနှင့် အသင့်စား အစားအသောက်များ စားသုံးမှုက တိုက်ရိုက်လွှမ်းမိုးထားသည်။ အမွှေးအကြိုင်ဈေးကွက်ကို ထိုစားသောက်ကုန်စားသုံးမှုက တွန်းအားပေးလျက်ရှိသည်။ ယင်းစားသောက်ကုန်ပစ္စည်းများတွင် သဘာဝအနံ့အရသာ အသုံးပြုမှုသည် ကမ္ဘာ့ဈေးကွက်ကို တိုးတက်ကျယ်ပြန့်စေပါသည်။ ၂၀၁၃-၂၀၁၅ ခုနှစ်များတွင် ကမ္ဘာ့ရေှတ်ကောင်းသုံးစွဲမှုမှာ တန်ချိန် ၄၀၀,၀၀၀ ခန့်ရှိပြီး အရှေ့နိုင်ငံများ၌ အမွှေးအကြိုင်အသုံးပြုမှု ပိုမိုများပြားလာသည်။ ဟင်းလျာများ၌ ရေှတ်ကောင်းခတ်သည့် ဓလေ့ကြောင့် ကမ္ဘာ့ရေှတ်ကောင်းနက် ဈေးကွက်မှာ သိသိသာသာ ကျယ်ပြန့်လာသည်။ အလှကုန်များတွင် ပိုမိုအသုံးပြုလာခြင်းကြောင့်လည်း ရေှတ်ကောင်းဈေးကွက်ကို ထပ်ဆင့်တိုးတက် ကျယ်ပြန့်လာစေပါသည်။ ရေှတ်ကောင်းတွင် မူးဝေခြင်းကို ပျောက်ကင်းသက်သာစေသော သတ္တိနှင့် ဘက်တီးရီးယားပိုးမွှားကို တိုက်ဖျက်သည့်ပစ္စည်းများ ပါဝင်သောကြောင့် အရေပြားကုသသည့် ဆေးများတွင်လည်း ရေှတ်ကောင်းကို ထည့်သွင်းဖော်စပ်ပါသည်။

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ကမ္ဘာ့ဈေးကွက် ရေှတ်ကောင်းနက် အဝယ်လိုက်သည့်နှစ်နှင့် ကြုံလာပါသည်။ သို့ရာတွင် ကံမကောင်း အကြောင်းမလှစွာဖြင့် ဝယ်အားတက်သလောက် ရောင်းအားက မလိုက်နိုင်ပါ။ ဈေးကွက်သွက်လက်မှုအတွက် ရောမအဟန့်အတားကြီး ဖြစ်သည်။ ဤသို့ဖြစ်ရခြင်းမှာ ကမ္ဘာအနှံ့အပြားတွင် ဆိုးဆိုးရွားရွား သီးနှံပျက်စီးမှုများကြောင့်ဖြစ်သည်။ အထူးသဖြင့် အိန္ဒိယနှင့် ဘရားဇီးတို့တွင် အပျက်အစီးများသည် ရာသီဉတု ရုတ်တရက် ပြောင်းလဲခြင်း၊ ချိန်ခါမဟုတ် မိုးရွာခြင်းတို့ကြောင့် ရေှတ်ကောင်းနက် ထွက်ရှိမှု သိသိသာသာကြီး ကျဆင်းသွားသည်။

**ရေှတ်ကောင်းနက်ဈေးကွက်။ ။ ပိုင်းခြားသတ်မှတ်ခြင်း**

ရေှတ်ကောင်းနက် အမျိုးအစားနှင့် ပစ္စည်းအမှန်တကယ် သုံးစွဲမှု အသုံးပြုမှုအပေါ် မူတည်၍ ရေှတ်ကောင်း ရေှတ်ကောင်းနက်ဈေးကွက်ကို ကျယ်ကျယ်ပြန့်ပြန့် ပိုင်းခြားသတ်မှတ်နိုင်ပါသည်။ အမျိုးအစားအပေါ် အခြေခံ၍ ဈေးကွက်ကို ခွဲခြားနိုင်ပါသည်။ ဥပမာ - သဘာဝပစ္စည်းနှင့် သဘာဝမဟုတ်သော ပစ္စည်းဟူ၍ ကွဲပြားခြားနားနိုင်ပါသည်။ အမှန်တကယ် အသုံးပြုမှုဖြစ်သော မုန့်ဖုတ်လုပ်ငန်း၊ မုန့်မျိုးစုံလုပ်သည့်လုပ်ငန်း၊ အအေးခဲပစ္စည်းလုပ်ငန်း၊ စွပ်ပြုတ်ရည်နှင့် အချိုရည်၊ ဒဏ်ရာအနာတရဖြစ်မှုဆေးထည့်ခြင်း၊ အဖျော်ယမကာ၊ သားငါးနှင့် ကြက်-ဘဲ တိရစ္ဆာန်မွေးမြူခြင်း၊ မုန့်နှင့် အဆာပြေစား အစားအသောက် စသည်ဖြင့် သုံးစွဲမှုအလိုက် ဈေးကွက်ချင်းမတူ၊ ခြားနားမှုရှိနိုင်ပါသည်။ အစားအသောက်နှင့် အဖျော်ယမကာ၊ ကျန်းမာရေးကုသမှု၊ တစ်ကိုယ်ရည် စောင့်ရှောက်မှုနှင့် အလှကုန်

ပစ္စည်းတွင် အသုံးပြုမှု စသည်အားဖြင့် သုံးပုံသုံးနည်းအလိုက် ငရုတ်ကောင်း ဈေးကွက်မတူဘဲ အရောင်းအဝယ်ချင်း ခြားနားပါသည်။

**ငရုတ်ကောင်းနက်ဈေးကွက်။ ။ ဒေသအလိုက် ဖြစ်နိုင်ခြေအလားအလာ**

ပထဝီအနေအထားအရ ကမ္ဘာ့ငရုတ်ကောင်းနက်ဈေးကွက်ကို ဒေသ(၇)ခု ခွဲခြားသတ်မှတ်ထားပါသည်။ ယင်းတို့မှာ မြောက်အမေရိကတိုက်၊ တောင်အမေရိကတိုက်၊ အနောက်ဥရောပ၊ အရှေ့ဥရောပ၊ ဂျပန်ဟူ၍လည်းကောင်း၊ ဂျပန်မပါဝင်သော အာရှပစိဖိတ်ဒေသ (APEJ)၊ အရှေ့အလယ်ပိုင်းဒေသ၊ အာဖရိက (MEA) နှင့် ဂျပန် ဟူ၍ လည်းကောင်း ခွဲခြားသတ်မှတ်ထားပါသည်။

၂၀၁၄ ခုနှစ်၊ ကမ္ဘာ့ငရုတ်ကောင်းနက် ထွက်ရှိရာတွင် ဗီယက်နမ်သည် အများဆုံးဖြစ်ပြီး ယင်းနောက်တွင် ဘရာဇီး၊ အိန္ဒိယနှင့် အင်ဒိုနီးရှားတို့သည် ငရုတ်ကောင်းထွက်သည့် ထိပ်တန်းနိုင်ငံများ ဖြစ်ကြသည်။ သို့ရာတွင် အိန္ဒိယနိုင်ငံသည် ထိုနှစ်တွင် ပျမ်းမျှအထွက်နှုန်း ကျဆင်းသည်။ ထိုနှစ်တွင် ဗီယက်နမ် ငရုတ်ကောင်းနက် ထုတ်လုပ်ရေးစွမ်းအား တိုးတက်မှုကြောင့် ဗီယက်နမ်တောင်သူများသည် ပြည်ပသို့ တင်ပို့ရာ၌ ကမ္ဘာ့ဈေးကွက်တွင် အနိမ့်ဆုံးဈေးဖြင့် ရောင်းချနိုင်ကြသည်။

ကမ္ဘာ့ဈေးကွက်တွင် ဗီယက်နမ်က လွှမ်းမိုးထားသည့် အမေရိကန်ပြည်ထောင်စုသည် ဗီယက်နမ်မှ ငရုတ်ကောင်းနက် အများဆုံးတင်သွင်းသည့် နိုင်ငံအဖြစ် ဆက်လက်ရပ်တည်လျက်ရှိသည်။ ဂျာမနီမှအပ အိန္ဒိယ၊ ဆော်ဒီအာရေးဘီးယား၊ ပါကစ္စတန်၊ နယ်သာလန်၊ စပိန်နိုင်ငံတို့သည် ငရုတ်ကောင်းနက်ကို ပိုမိုတင်သွင်းကြသည်။ မှတ်တမ်းအရ ဂျာမနီသည် ဗီယက်နမ်မှ ငရုတ်ကောင်းနက်ကို လျော့၍ တင်သွင်းကြောင်း တွေ့ရှိရသည်။ သို့ဖြစ်၍ ကမ္ဘာ့ဈေးကွက်ဖြန့်ကြက်မှုတွင် ၅၀% ခန့်သည် ဗီယက်နမ်နိုင်ငံက လွှမ်းမိုးထားကြောင်း တွေ့ရှိရသည်။

**နိုင်ငံတကာ ဈေးကွက်ဈေးနှုန်းနှင့် ဈေးနှုန်းပျက်လွယ်ခြင်း**

၂၀၀၉ ခုနှစ်နှင့် ၂၀၁၅ ခုနှစ်အကြား ငရုတ်ကောင်းနက် ကမ္ဘာ့ဈေးနှုန်း သုံးဆကျော် တက်သွားပြီး အမြင့်ဆုံးနှုန်းသို့ ရောက်ရှိသွားသည်။ ဈေးတက်ရသည့် အကြောင်းရင်းမှာ အရှေ့တောင်အာရှတွင် ငရုတ်ကောင်းနက် သိုလှောင်ထားရှိမှု များပြားလာပြီး ဝယ်လိုအား များပြားလာသောကြောင့် ဖြစ်သည်။ ဆယ်စုနှစ်တစ်ဝက် ဈေးတက်လာပြီး နောက်ဆုံးတွင် ခေါင်ခိုက်သည်အထိ အမြင့်ဆုံးနှုန်းသို့ ရောက်သွားပါသည်။ သို့ရာတွင် ဤနှစ်အတွင်း ဈေးကျလာပြီး ရှေ့ဆက်၍ ကျဖွယ်ရှိသည်။ ဗီယက်နမ်သည် ဘရားဇီး၊ အင်ဒိုနီးရှားတို့နှင့်အတူ အဓိက ငရုတ်ကောင်း ထုတ်လုပ်သည့်နိုင်ငံ ဖြစ်သည်။ အမေရိကန်ပြည်ထောင်စုသို့ အဓိကတင်ပို့ရောင်းချသည့် နိုင်ငံလည်း ဖြစ်သည်။ အခြားနိုင်ငံများထက် ဗီယက်နမ်၏ ငရုတ်ကောင်းထုတ်လုပ်မှု ပမာဏက ပိုမိုသာလွန် များပြားနေခြင်းကြောင့် ကမ္ဘာ့ငရုတ်ကောင်းဈေးနှုန်းကို ဗီယက်နမ်က စိုးမိုးချုပ်ကိုင်ထားပါသည်။ သို့ရာတွင် ယခုနှစ် နှစ်ဦးပိုင်းမှစ၍ ဗီယက်နမ် ငရုတ်ကောင်းဈေး ၂၀% ခန့် ကျဆင်းလာပါသည်။

၂၀၁၆ ခုနှစ်တွင် ဗီယက်နမ်သည် ငရုတ်ကောင်းတန်ချိန် ၁၅၀,၀၀၀ မှ ၁၆၀,၀၀၀ ခန့် အထိ ၁၈% ခန့် တိုးမြှင့်ထုတ်လုပ်နိုင်ခဲ့ပါသည်။ အခြားငရုတ်ကောင်း ထုတ်လုပ်သည့် ဒေသများတွင်လည်း ယခုနှစ်တွင် သင့်တင့်စွာ ထုတ်လုပ်ခဲ့သောကြောင့် ငရုတ်ကောင်းဈေး ကျနိုင်ပါသည်။ ဘရာဇီးနှင့် အင်ဒိုနီးရှားတောင်သူများမှာ အယ်လ်နီညို (EL Nino) ရာသီဥတုနှင့် ကြုံတွေ့ကြရသည် မှန်သော်လည်း စိုက်ဧက တိုးချဲ့စိုက်ပျိုးရေး စီမံကိန်းကြောင့် ပျက်စီး

ဆုံးရှုံးမှုမှာ ပမာဏနည်းပါသည်။ စိုးရိမ်သလောက် ဆိုးရွားစွာ နစ်နာခြင်း မရှိပါ။ ၂၀၁၆ ခုနှစ်တွင် အိန္ဒိယနိုင်ငံ၌ မုတ်သုံရာသီ ဖောက်ပြန်မှုကြောင့် သီးနှံထွက်ရှိမှု လျော့နည်းသွားပါသည်။

လွန်ခဲ့သော (၁၀) နှစ်အတွင်း ရေတ်ကောင်း ကမ္ဘာ့ရောင်းအား ကျဆင်းလာသည့် ၂၀၀၆ ခုနှစ်က ရေတ်ကောင်း ကမ္ဘာ့ရောင်းအားသည် တန်ချိန် ၃၀၀,၀၀၀ ရှိရာမှာ ၂၀၁၆ ခုနှစ်တွင် ရောင်းအားတန်ချိန် ၁၁၀,၀၀၀ အထိ ကျဆင်းသွားသည်။ သို့သော် အိန္ဒိယနှင့် ဗီယက်နမ်တို့တွင် ၂၀၁၇ ခုနှစ်၌ အထွက်တိုးနိုင်ခြေရှိပြီး အငယ်စား ထုတ်လုပ်သည့် နိုင်ငံအချို့ - ဥပမာ ကမ္ဘောဒီးယားကဲ့သို့သော နိုင်ငံများ၌ စောလျင်စွာ အထွက်တိုးလာသောကြောင့် ၂၀၁၂ ခုနှစ်၊ သို့မဟုတ် ၂၀၁၅ ခုနှစ်တွင် တွေ့ကြုံခဲ့ကြရသကဲ့သို့ ဝယ်အားထက် ရောင်းအားက ပိုများနိုင်ပါသည်။

ထုတ်လုပ်မှုတိုးမြှင့်လာခြင်းမှာ ဗီယက်နမ်၊ အင်ဒိုနီးရှား၊ ဘရာဇီးနှင့် ကမ္ဘောဒီးယားနိုင်ငံတို့တွင် စိုက်ဧက တိုးချဲ့ပြီး စိုက်ပျိုးသောကြောင့် ဖြစ်နိုင်ပါသည်။ ဗီယက်နမ်နိုင်ငံတွင် ယမန်နှစ် (မနှစ်) က ရေတ်ကောင်းစိုက် ဟက်တာ (hectare) သည် ၈၅,၀၀၀ ခန့် ရှိသည်။ ယခုနှစ်တွင် ၁၈% တိုးမြှင့်ပြီး ဟက်တာ ၁၀၀,၀၀၀ စိုက်ပျိုးမည်ဖြစ်သည်။ ဤသို့ တိုးချဲ့စိုက်ပျိုးခြင်းမှာ ရာဘာကဲ့သို့ ငွေအရနည်းသော၊ ငွေဖြစ်မလွယ်သော သီးနှံကို စွန့်လွှတ်ပြီး ရေတ်ကောင်း ဘက်သို့ ကူးပြောင်း စိုက်ပျိုးသည့် လယ်သမားများကြောင့်ဖြစ်သည်။

ထုတ်လုပ်မှု တိုးမြှင့်လာသည်နှင့်အမျှ ပစ္စည်းများလည်း အပုံလိုက် ပေါ်များလာတော့မည်ဖြစ်ရာ ပစ္စည်းဈေး လည်း ပိုမိုထိုက်သင့်သည့် ဈေးနှုန်းသို့ ကျဆင်းသွားမည် ဖြစ်သည်။

စိတ်ဝင်စားဖွယ်ကောင်းသည်မှာ ရေတ်ကောင်းအကြီးအကျယ်ထုတ်လုပ်သည့် နိုင်ငံများသည် ဥယျာဉ်ခြံမြေ စိုက်ပျိုးရေးကို ဖောက်ချလုပ်ကိုင်လာကြပြီး အကြီးစားထုတ်လုပ်ရေးကို လုပ်ကိုင်ဆောင်ရွက်လာကြသည်။ သို့ရာတွင် အိန္ဒိယနိုင်ငံကမူ ယခင်အစဉ်အလာအတိုင်း အကွက်ငယ်များတွင်သာ စိုက်ပျိုးလုပ်ကိုင်ဆဲပင်ဖြစ်သည်။

ကမ္ဘာ့ရေတ်ကောင်း ဒုတိယအများဆုံး ထုတ်လုပ်သည့် အင်ဒိုနီးရှားနိုင်ငံက မိမိရိတ်သိမ်းမည့် ရေတ်ကောင်း ကောက်နှံအားလုံးကို ရောင်းချထားပြီးဖြစ်သောကြောင့် ကမ္ဘာ့ရေတ်ကောင်း ရောင်းအားမှာ အကန့်အသတ်ရှိလာ ပါသည်။ ကောက်ရိတ်သိမ်းရာတွင် အင်ဒိုနီးရှားသည် ရေတ်ကောင်းတန်ချိန် ၂၈,၀၀၀ မှ ၃၀,၀၀၀ ရှိရာ ၂၀၁၅ ခုနှစ် အထွက်ထက် သိသိသာသာကြီး မြင့်မားပါသည်။

ဤအချက်များကြောင့် ဈေးနှုန်းလမ်းကြောင်းကိုလည်းကောင်း၊ ရေတ်ကောင်းဖြူနှင့် ရေတ်ကောင်းနက် ဈေးနှုန်းကိုလည်းကောင်း၊ အကျိုးသက်ရောက်မှုဖြစ်ပေါ်စေကာ တစ်တန်လျှင် လက်ရှိရနေသည့် ဈေးနှုန်းမှ အမေရိကန်ဒေါ်လာ ၆၀၀ ပိုမိုတိုးမြှင့် ရရှိလာပါသည်။

လက်ရှိရေတ်ကောင်းဖြူတစ်တန်လျှင် အမေရိကန်ဒေါ်လာ ၇,၀၀၀ ရှိပြီး၊ ရေတ်ကောင်းနက်မှာ တစ်တန်လျှင် အမေရိကန်ဒေါ်လာ ၄,၉၀၀ နှင့် ၆,၀၀၀ ကြားရှိပါသည်။

၂၀၁၆ ခုနှစ်၊ IPC ၏ ထုတ်ပြန်ချက်အရ ၂၀၁၆ ခုနှစ်၊ ရေတ်ကောင်းကမ္ဘာ့သုံးစွဲမှု ၄၆၃,၀၀၀ တန်ရှိပြီး ထုတ်လုပ်မှုမှာ ၄၁၄,၀၀၀ တန်သာရှိသောကြောင့်ရောင်းအားတန်ချိန် ၄၉,၀၀၀ လိုအပ်နေသည်။ ရောင်းအားက နည်းနေသည်။

သို့ဖြစ်၍ အထက်တွင်ဖော်ပြခဲ့သော အကြောင်းတရားများကြောင့် ရေတိုတွင်ဖြစ်စေ၊ ရေရှည်ကာလတွင် ဖြစ်စေ ငရုတ်ကောင်းနှင့် ပတ်သက်သော နိုင်ငံတကာ ဈေးနှုန်းများသည် တက်လွယ်ကျလွယ် ပြောင်းလဲ နေမည်သာ ဖြစ်သည်။

**ကမ္ဘာ့ဈေးကွက် - ငရုတ်ပွအနှစ် (ငရုတ်ဆီ) အလားအလာ၊ ငရုတ်ပွ (အနီရောင်)၊ ငရုတ်ကောင်းနက်၊ ငရုတ်ချို၊ နနွင်း၊ ကြက်သွန်ဖြူ၊ ဂျင်း**

ငရုတ်ပွ ထုတ်လုပ်ခြင်းကို အိန္ဒိယနိုင်ငံက စိုးမိုးထားပါသည်။ ငရုတ်ပွအနှစ် ထုတ်လုပ်ရာတွင် အရောင် အသင့်အတင့်ရှိပြီး စူးရှသည့် အချိုအရသာ ပါရှိအောင် ပြုပြင်စီရင်၍ စိုက်ပျိုးထုတ်လုပ်ပါသည်။ ဤကဲ့သို့သော ငရုတ်ပွအနှစ်ကို စပိန်နိုင်ငံက ရောင်းဝယ်သည့်လုပ်ငန်း လုပ်ကိုင်သည့် မိမိနိုင်ငံက ထုတ်လုပ်မှုရှိသကဲ့သို့ တောင် အမေရိကနှင့် အာဖရိကနိုင်ငံများမှ ငရုတ်ဆီများကိုပါ ရောင်းဝယ်ဖောက်ကားခြင်း ပြုလုပ်ပါသည်။ သို့သော် အိန္ဒိယ နိုင်ငံသည် ငရုတ်ပွရော၊ ငရုတ်ချိုအဆီအနှစ် နှစ်မျိုးစလုံးတွင် ပြိုင်ဆိုင်ရောင်းဝယ်လျက်ရှိပါသည်။

ထို့ပြင် အိန္ဒိယနိုင်ငံသည် အဆီအနှစ်များ၊ ဟင်းခတ်အမွှေးအကြိုင်များကိုလည်း တင်ပို့ရောင်းချရာ၌ ထိပ်တန်းမှ နေရာယူထားပါသည်။

**ထုတ်ပိုးထားသော ဟင်းခတ်အမွှေးအကြိုင် ဝယ်လိုအားနှင့် စားသောက်ဆိုင်များတွင် အသုံးပြုသော ဟင်းခတ်အမွှေးအကြိုင်များ**

၂၀၁၅ ခုနှစ်၊ တစ်ကမ္ဘာလုံးတွင် ငရုတ်ဆီဈေးကွက် ရောင်းရားသည့်တန်ဖိုးသည် အမေရိကန်ဒေါ်လာ ၄၄၉.၄ သန်း (ရူပီငွေ ၇၀ ဘီလျံ) ရှိသည်။ ငရုတ်ဆီကို အပူချိန်မြင့်မြင့်ပေး၍ အခြားပျော်ဝင်လွယ်သော ပစ္စည်းများနှင့် ရောစပ်ထုတ်လုပ်ထားခြင်းကြောင့် ငရုတ်ဆီကို စားသောက်ကုန်လုပ်ငန်းတွင် အနံ့အရသာ ဖြည့်စွက်ပစ္စည်းအဖြစ် အသုံးပြုကြသည်။ ထုတ်ပိုးထားပြီး ဟင်းခတ်အမွှေးအကြိုင်များနှင့် ဟင်းများပြင်ဆင်ရာ၌ အမွှေးအကြိုင်ထည့်ပေး ခြင်းဖြင့် ဈေးကွက်မြင့်တက်လျက်ရှိသည်။

ဟင်းပြင်ဆင်ရာတွင် အချဉ်ပွဲထည့်ပေးခြင်းနှင့် အသွေးအရောင်ပါသည့် သနပ်အဖြစ် ဖြည့်စွက်ထည့်ပေးခြင်း ဖြစ်သည်။ ဟင်းအဆီအနှစ်များကို အပူဓါတ်ပေးရသည့် ဖုတ်ခြင်း၊ ကင်ခြင်းနှင့် ကြော်ခြင်းလုပ်ငန်းများတွင် ထည့်သွင်း အသုံးပြုသည်။ ငရုတ်ဆီ၊ ငရုတ်နှစ်များသည် အဏုဇီဝသတ္တိ (microbiological) ရှိသောကြောင့် ယင်းကို ကြိုက်နှစ်သက်ကြသည်။ အနံ့အရသာညီမျှပြီး ထုပ်ပိုးသိမ်းဆည်းရ လွယ်သည်။ သယ်ယူပို့ဆောင်ရာ၌ လွယ်ကူသော ပစ္စည်းဖြစ်သည်။

အဆီအနှစ်များကို ဆေးဝါးလုပ်ငန်း၌လည်း အသုံးပြုသည်။ နောက်ကျောနာခြင်း၊ ကိုက်ခြင်း၊ စိတ်ညစ်ငြူး ခြင်းနှင့် ကင်ဆာဝေဒနာကုသရာတွင် အသုံးပြုလျက်ရှိသည်။ နနွင်းနှင့် ငရုတ်ပွတို့မှ ထုတ်ယူသည့် အနှစ်များကို အသုံးပြုရာတွင် အရသာတစ်ခုတည်းကိုသာ ရည်ရွယ်၍ သုံးခြင်းမဟုတ်ဘဲ ယင်းတွင်ပါဝင်သည့် အရောင်ပေးနိုင်သည့် ပစ္စည်းများကြောင့်ပါ သုံးစွဲခြင်းဖြစ်သည်။ ဖွံ့ဖြိုးပြီးဒေသများတွင် မုန့်မျိုးစုံလုပ်ခြင်း၊ ဖုတ်သောအစားအသောက်များ ထုတ်လုပ်ခြင်းကြောင့် ယင်းအဆီအနှစ်ပစ္စည်းများ ဈေးကွက်ပေါ်လာမည်ဖြစ်သည်။

ကနဦးကာလတွင် အဆီအနှစ် ထုတ်ယူခြင်းလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု တန်ဖိုးကြီးမားသည့် စားသုံး သူများက အရောင်အတု၊ အရသာအတုနေရာတွင် သဘာဝပစ္စည်းများကို အသုံးပြုလိုလာကြသည်။ ပိုးသတ်ဆေး အသုံးပြုသောကြောင့် သန့်စင်သည့် ကုန်ကြမ်းများ၊ ဈေးနှုန်းများ တက်လာသည်။ ထို့ပြင် မကြာသေးမီကာလ

အတွင်းက စိုက်ပျိုးမြေများ လျော့နည်းလာခြင်း၊ အနှုတ်အသိမ်းများလာခြင်းကြောင့် ဈေးကွက်တွင် အဆိုးလက္ခဏာပြသည်။ မကောင်းသော ရိုက်ခတ်မှုပင်ဖြစ်သည်။ ဥရောပအစားအသောက်အန္တရာယ်ကင်းရှင်းရေးအာဏာပိုင်အဖွဲ့ (European Food Safety Authority) က ကြက်သားကို စွဲစွဲလန်းလန်း စားသောက်လိုသူများအား ကြက်အသား တိုးစေရန် ငရုတ်ချိုအနှစ်ကို ကျွေးပေးရန် တိုက်တွန်းထားသည်။ ယင်းသို့သော စည်းမျဉ်းဥပဒေကြောင့် ငရုတ်ဆီ/ငရုတ်နှစ် ဈေးကွက်ကျယ်ပြန့်လာစေနိုင်ပေသည်။ စားသောက်ကုန်များတွင် ယင်းသို့သော အဆီအနှစ်များ အသုံးပြုနိုင်ရေးနှင့် အဆီအနှစ်ထုတ်လုပ်ရာ၌ အဏုဇီဝ (microbial) ညစ်ညမ်းမှုမရှိစေရန် သန့်ပြန့်သော ကုန်ကြမ်းများကို ဖန်တီးဆောင်ရွက် သုံးစွဲလျက်ရှိပါသည်။

**အမေရိကန် ငရုတ်ဆီအနှစ်ဈေးကွက်ပစ္စည်းပမာဏ ၂၀၁၄ -၂၀၂၄ တန်**




**၂၀၁၅ခုနှစ်တွင် ငရုတ်ပွ (ငရုတ်ဆီ) သည် ထုတ်ကုန်ပမာဏ၏ သုံးပုံတစ်ပုံ အသုံးပြုသည်**

ပါဝင်သောအဓိကပစ္စည်းများမှာ ငရုတ်ပွ၊ ငရုတ်ကောင်းနက်၊ ငရုတ်ကောင်းချို၊ နနွင်း၊ ကြက်သွန်ဖြူ၊ ဂျင်း၊ ကြက်သွန်နီနှင့် အခြားပစ္စည်းများဖြစ်သည်။ အခြားပစ္စည်းဆိုရာတွင် သစ်ကြံပိုး၊ ဟင်းမွှေးရွက်၊ အရွက်တွန့် ဂေါ်ဖီထုပ်၊ သစ်ခွ၊ မန်ကျည်း၊ ကိုကိုး၊ နံနံပင်၊ ငရုတ်ကောင်းဖြူနှင့် West Indian Bag Leaves တို့ဖြစ်သည်။ ငရုတ်ပွသည် ဈေးကွက်ထိပ်တန်း အသုံးဝင်ပစ္စည်းဖြစ်ပြီး ၂၀၁၅ ခုနှစ်တွင် ဈေးကွက်၌ ရောင်းရသည့်ပစ္စည်းများ၏ ၂၅% ကျော် ပမာဏရှိသည်။

ငရုတ်ပွမှ ထွက်ရှိသည့် အနှစ်ကဲ့သို့ အလားသဏ္ဍာန်တူသည့် ငရုတ်ကောင်းတောင့်အနီမှ ထွက်သည့် အနှစ်များကို သွားရည်စာမုန့်များတွင် ရနံ့မွှေးအောင် ထည့်ပေးသည့်နည်းတူ အစားအသောက်များပေါ်တွင် အပေါ်မှ အုပ်ပေးသည်။ ဝက်အူချောင်းလုပ်ရာတွင်လည်း အသုံးပြုသည့် အစားအသောက်တွင် ပျော်ဝင်၍ အနံ့မွှေးအောင် လည်း အသုံးပြုသည်။ ဤအမွှေးအကြိုင်တို့သည် ငရုတ်ပွနွယ်ဝင်အနှစ်များဖြစ်သဖြင့် ဈေးကွက်တွင် ငရုတ်ပွအနှစ်ကို ပိုမို၍ ဝယ်အားကောင်းစေပါသည်။

ငရုတ်ကောင်းနက်သည် အစားစားချင်စိတ်ဖြစ်ပေါ်စေသည်။ ခံတွင်းလိုက်စေသည့် ပို့အန်ခြင်း၊ ဝမ်းကိုက်ခြင်းတို့ကို ပျောက်ကင်းသက်သာစေသည်။ ဖေါယောင်ခြင်းနှင့် ပိုးမွှားများကို နိုင်နင်းသောကြောင့် အစာမကြေဝေဒနာ

ကို သက်သာပျောက်ကင်းစေပါသည်။ ငရုတ်ချိုသီးအနှစ်ကို မှုခင်းကိုင်တွယ်သည့် အရာရှိများ၊ ရဲတပ်ဖွဲ့ဝင်များက အသုံးပြု၍ ထင်ရှားလာသည်။ ငရုတ်ကောင်းမှုန့်ကဲ့သို့ ဖြူး၍ လူများ၏ အသက်အန္တရာယ်ကို ကာကွယ်စောင့်ရှောက်နိုင်စေသည်။

## ၂၀၁၅ ခုနှစ်တွင် အစားအသောက်အနံ့အရသာထူးကဲအောင် ဆောင်ရွက်သည်

အရသာတူအောင် အထူးစီရင်သည့် ပစ္စည်းများမှာ အစားအသောက်၊ အဖျော်ယမကာ၊ ဆေးဝါးနှင့် အခြားပစ္စည်းများဖြစ်သည့် စည်သွတ်ဗူးများ၊ မုန့်ပဲသရေစာများ၊ ရေမွှေး၊ ဆပ်ပြာ စသည်တို့တွင် ရန့်ထည့်၍ စီမံထုတ်လုပ်ကြသည်။

ရန့်ထည့်သွင်းသည့် လုပ်ငန်းသည် ဈေးကွက်တွင် ၃၅% ပါဝင်ပြီး အရောင်းတွင်သည့် ပစ္စည်းဖြစ်သည်။ ယင်းပစ္စည်းနောက်တွင် စားသောက်ရန်နှင့် အဖျော်ယမကာတို့၏ အရောင်းသွက်သည့် အနံ့အရသာ ဝယ်လိုအား တက်လာခြင်း၊ ဝယ်လိုအား ပိုများလာခြင်းမှာ စားသုံးသူများ၏ အစားအသောက် အနေအထိုင် ပြောင်းလဲလာမှုတို့ကြောင့် ဖြစ်သည်ဟု ဆိုနိုင်သည်။ အဆာပြေစားသည့် သရေစာများတွင် ရန့်ထည့်သည့်အခါ မွှေးကြိုင်သည့် ငရုတ်နှစ်များထည့်၍ စားသုံးသူ ကြိုက်နှစ်သက်အောင် စီရင်သည်။

ငရုတ်ပွအနှစ်တွင် နလုံးသွေးကြောကျဉ်းဝေဒနာနှင့် အစာအိမ်အူနုပိုင်းဆိုင်ရာ ဝေဒနာတို့ကို ပျောက်ကင်းစေသည့် အစွမ်းသတ္တိရှိသည်။ ထို့ပြင် ယင်းငရုတ်နှစ်တွင် အကိုက်အခဲပျောက်စေသော အစွမ်းသတ္တိနှင့် အဝလွန်ရောဂါတိုက်ဖျက်သည့် အစွမ်းသတ္တိရှိသဖြင့် ကင်ဆာရောဂါ ကုသရာတွင်လည်း အထောက်အကူ ဖြစ်စေသည်။

## ၂၀၁၅ခုနှစ် ငရုတ်ဆီထုတ်ကုန်ပမာဏ၏ သုံးပုံတစ်ပုံမှာ ဥရောပမှ အသုံးပြုသည်

ကမ္ဘာ့ငရုတ်ဆီ/ငရုတ်နှစ်လုပ်ငန်းတွင် ဥရောပဝယ်လိုအားသည် ၂၀၁၅ ခုနှစ်တွင် ၃၀% ထက်ပင်ကျော်သေးသည်။ အမွှေးအကြိုင်ပစ္စည်း ဈေးကွက်တွင် ဂျာမနီ၊ ဗြိတိန်၊ ရိုမေးနီးယားနှင့် ဟန်ဂေရီတို့သည် စားသုံးသူအများဆုံးဖြစ်သည်။ ရိုးရာအစားအသောက်များ စားသုံးမှုတိုးမြင့်လာသည်နှင့်အမျှ ငရုတ်ဆီ/ငရုတ်နှစ်စားသုံးမှု ပိုမိုများပြားလာသည်။

နေထိုင်မှုပုံစံပြောင်းလဲလာသည်နှင့်အမျှ မကြာသေးသောကာလအတွင်း ကျန်းမာရေးနှင့် ညီညွတ်သည့် သဘာဝ အစားအသောက် စားသုံးမှုမှာလည်း မြင့်မားလာသည်။ စားသုံးသူအများအပြားသည် ယင်းငရုတ်ဆီ/ငရုတ်နှစ်များကို အဖျော် ယမကာများတွင် ထည့်သွင်းသုံးစွဲကြသည်။

## ဈေးကွက်တွင် ကုန်ထွက်ပမာဏ အများစုကို ကုမ္ပဏီအနည်းစုက ချုပ်ကိုင်ထားခြင်း

ကမ္ဘာ့ငရုတ်ဆီ/ငရုတ်နှစ် ဈေးကွက်ကို ဤလုပ်ငန်းတွင် ကျယ်ကျယ်ပြန့်ပြန့် ဝင်ရောက်ရင်းနှီးလုပ်ကိုင်နေကြသော ကုမ္ပဏီအနည်းစုကသာလျှင် ချုပ်ကိုင်ထားသည်။ ကမ္ဘာအနှံ့ ဖြန့်ကြက်နေသည့် ယင်းကမ္ဘာ့လုပ်ငန်းကြီးသည် ကုမ္ပဏီအများစု ပေါင်းထားသည့် ကုမ္ပဏီပေါင်းစုကြီးများ (mengers) ဖြစ်လာဖွယ်ရှိသည်။ လာမည့်နှစ်များစွာအတွင်း တစ်ဖွဲ့နှင့်တစ်ဖွဲ့ အပေးအယူလုပ်၍ မဟာဗျူဟာ မဟာမိတ်ဖွဲ့စုပေါင်း လုပ်ကိုင်ကြလိမ့်မည်ဟု ယူဆရသည်။ အဓိက ကုမ္ပဏီကြီးများမှာ Universal Oleoresins, Ungerer & Company, Plant Lipids, Akay, Synthite, AVT Natural Products Ltd, Indo World, Paprika Oleo's, Paras Perfumers, Ambe Group, Asian Oleoresin company, cymbio Pharam Pvt Ltd and Bioprex Labs တို့ဖြစ်သည်။

**သတင်းအရင်းအမြစ် - Grand View Researc, Inc, U.S based Market Research and Consulting Company**

မှတ်ချက်။ ။ ဤတင်ပြချက်များတွင် ဖော်ပြသည့်အချက်၊ အောင်မြင်ချက် သို့မဟုတ် စိစစ်သုံးသပ်ချက် အကြောင်းအရာအားလုံးသည် လေ့လာစိစစ် သုံးသပ်သည့် ပုဂ္ဂိုလ်အသီးသီး၏ အာဘော်များသာ ဖြစ်ပါသည်။ ယင်းလေ့လာသုံးသပ်သည့် ပုဂ္ဂိုလ်များသည် လက်ရှိပကတိအခြေအနေနှင့် ဈေးကွက်ပွင့်လင်းမြင်သာမှု သုတေသန (Transparency Market Research) ကို ထင်ဟပ်သုံးသပ်ခြင်းမျိုး မဟုတ်ပေ။

## ဈေးကွက်ဈေးနှုန်းနှင့် အနာဂတ်လမ်းကြောင်း

အထက်အပိုဒ်များတွင် ကျွန်ုပ်တို့ဖော်ပြခဲ့သည့်အတိုင်း လုပ်ငန်းအသီးသီးတွင် လိုအပ်သည့်ပစ္စည်းရရှိနိုင်မှုမှာ အကန့်အသတ်ရှိနေပြီး လိုသလောက်မရရှိနိုင် ဖြစ်နေပါသည်။ လိုသလောက်ပမာဏ ရရှိနိုင်ရန်နှင့် အပင်များ ကြီးထွားပြီး အနည်းဆုံး ၅နှစ် ပန်းခူးချိန် (harvest) ရောက်သည့်တိုင်အောင် စောင့်ရန်လိုပါသည်။ Ylang Ylang ပန်းဆီမွှေးဆိုလျှင် ၅ နှစ်မှ ၁၀ နှစ်အတွင်း ဝယ်လိုအား အလွန်မြင့်နေမည်ဖြစ်သည်။ သို့ဖြစ်၍ လေ့လာသုံးသပ်သူများက လောလောဆယ် တည်ငြိမ်နေသော ဈေးနှုန်းသည် နောင်တွင် ဈေးတက်နိုင်သည်ဟု ခန့်မှန်းသုံးသပ်ကြပါသည်။ (လွန်ခဲ့သော ၁၀ နှစ်အတွင်း ဆေးဘက်ဝင်ပန်းများနှင့် ယင်းပန်းဆီများ၏ ဈေးနှုန်းသည် တဟုန်ထိုးတိုးတက်ပါသည်။ ဈေးကွက်သဘာဝအတိုင်း ဆက်နွယ်နေသည့် အခြားပစ္စည်းများလည်း လိုက်တက်ပါသည်။

## ဈေးကွက်ဈေးနှုန်း

အထက်ဖော်ပြပါ ပစ္စည်းဈေးနှုန်းများ ကမ္ဘာ့ဈေးကွက်၌ တည်ငြိမ်မှုမရှိဘဲ အတက်အကျရှိကြောင်း၊ ဈေးအတက်အကျရှိကြောင်း အထက်အပိုဒ်များတွင် လေ့လာသိရှိနိုင်ပါသည်။ ရှေ့ပိုင်းတွင် ဖော်ပြခဲ့သည့်အတိုင်း အကြောင်းများစွာကြောင့် ကမ္ဘာ့ဈေးကွက်တွင် ယင်းပစ္စည်းများ၏ ဈေးနှုန်းမတည်ငြိမ်ဘဲ မကြာခဏ ပြောင်းလဲမှုများ ရှိပါသည်။

သို့ဖြစ်၍ ဈေးကွက်စီမံချက်ချမှတ်ခြင်းနှင့် ငွေကြေးဆိုင်ရာ အကဲဖြတ်စဉ်းစားသုံးသပ်ရာ၌ ထည့်သွင်းစဉ်းစားနိုင်ရန် ဈေးနှုန်းပြောင်းလဲမှုဖြစ်နိုင်ချေကို ဖော်ပြထားပါသည်။ အထက်တွင် ရှင်းလင်းတင်ပြခဲ့သည့် အကြောင်းပေါင်းများစွာအနက် အဓိကအားဖြင့် ဘေးအန္တရာယ်များနှင့် မမျှော်မှန်းနိုင်သော ဘေးအန္တရာယ်ဆိုးကြီးများကြောင့် ဈေးနှုန်းမတည်မငြိမ် ဖြစ်ပေါ်နိုင်ပါသည်။ Madagascar တွင် ရာသီဥတု ဖောက်ပြန်မှုကြောင့် ကမ္ဘာ့ဈေးကွက်တွင် သစ်ခွစေ့ဈေးနှုန်း၊ မတည်မငြိမ်ဖြစ်မှုကို တွေ့ရှိခဲ့ရပါသည်။ ရာသီဥတုအခြေအနေသည် ပစ္စည်း၏နောက်ဆုံးရောင်းဈေးကို အဆုံးအဖြတ်ပေးနိုင်သည့် အဓိကအချက်တစ်ရပ် ဖြစ်ပါသည်။

သို့ဖြစ်၍ စားသုံးသူ/ အသုံးပြုသူများသည် မိမိတို့လိုအပ်သည့် ပစ္စည်းများကို တည်ငြိမ်သောဈေးနှုန်းဖြင့် ဝယ်ယူ ရရှိနိုင်ရန် အခက်အခဲရှိပါသည်။ ဤသို့ဈေးနှုန်းမတည်ငြိမ်သည့် အန္တရာယ်ကိုကာကွယ်ရန် ကျွန်ုပ်တို့သည် ကြိုတင်သတ်မှတ်သော ဈေးနှုန်းဖြင့် ဝယ်ယူအသုံးပြုမည့်သူ (customer) များနှင့် ကာလရှည်အရောင်းစာချုပ် (ဥပမာ-တစ်နှစ်စာချုပ်) ချုပ်ဆိုရောင်းဝယ်ခြင်းအားဖြင့် ဈေးနှုန်းမမှန်သည့် အန္တရာယ်ကို လျော့နည်းစေနိုင်ပါသည်။ HDDES (Myanmar) Ltd. သည် ရာသီချိန်အတွင်း စိုက်ပျိုးရေးပစ္စည်း အမြောက်အများ ဝယ်ယူထားပြီး ကုန်ကြမ်းပစ္စည်း/ကုန်ချောပစ္စည်းများကို သင့်တင့်သော ဈေးနှုန်းဖြင့် ဝယ်ယူသိလှောင် သိမ်းဆည်းထားနိုင်ပါသည်။ ဤနည်းဖြင့် ကျွန်ုပ်တို့၏ လက်ရှိဝယ်ယူသုံးစွဲသူ (ဖောက်သည်) များအား ယခင်ဈေးနှုန်းအတိုင်း အလားတူဈေးဖြင့် ရောင်းချနိုင်ပါသည်။

ဝယ်ယူသူများနှင့် အမြဲဆက်သွယ်နေခြင်းသည် အလွန်အရေးကြီးသည်။ ထို့ပြင် HDDES (Myanmar) Ltd. သည် ဝယ်ယူသုံးစွဲသူထံသို့ ပစ္စည်းပေးပို့ရမည့် နောက်ဆုံးနေ့ရက်ကို သိရှိထားရန်လိုအပ်သည်။ အသစ်ထုတ်လုပ်သော ပစ္စည်းအကြောင်းနှင့် ပစ္စည်းများ၏ အရည်အသွေးနှင့် ပတ်သက်သည့် အရေးကြီး သတင်းအချက်အလက်တို့ကို ဝယ်ယူသုံးစွဲသူများအား ရှင်းလင်းတင်ပြရန် လိုအပ်ပါသည်။

**ရောင်းချဖြန့်ဖြူးခြင်းစနစ်**

(က) အရောင်းမဟာဗျူဟာသစ် ချမှတ်၍ ဝယ်ယူသူအသစ်များထံသို့ တင်ပို့သည့် ဈေးကွက်သစ် ဖော်ဆောင်ဖန်တီးခြင်း၊ ယခုအချိန်တွင် အိန္ဒိယနိုင်ငံသည် ဟင်းခတ်ဆီမွှေး၊ ငရုတ်ဆီ/ ငရုတ်နှစ်နှင့် အခြားအဆီအနှစ်များနှင့် ပတ်သက်၍ ကမ္ဘာ့ဈေးကွက်တွင် လွှမ်းမိုးဦးဆောင်လျက်ရှိသည်။ အိန္ဒိယသည် ကုန်ကြမ်းများ ဝယ်ယူပြီး တန်ဖိုးမြှင့် ပစ္စည်းအဖြစ် ဖန်တီးထုတ်လုပ်၍ မိမိ၏ဝယ်နေကျ ဖောက်သည်များထံသို့ တင်ပို့ပါသည်။ HDDES Extracts (PVT) Ltd. သည် အရောင်းဈေးကွက် ကျယ်ပြန့်ရေးစီမံချက် ရေးဆွဲဆောင်ရွက်မည်ဖြစ်ရာ ကုမ္ပဏီသည် ယင်း၏ကုန်ပစ္စည်းသစ်များနှင့် ပတ်သက်၍ ကုန်စည်ပြပွဲသစ်များတွင် ပါဝင်ပြသရန် ပစ္စည်းသစ်များနှင့် ပတ်သက်သော ကွန်ဖရင့်များနှင့် ကမ္ဘာလုံးဆိုင်ရာပွဲတော်များသို့ ပါဝင်တက်ရောက် ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ခ) ကျွန်ုပ်တို့၏လက်ရှိဝယ်နေကျဖောက်သည် သို့မဟုတ် ဝယ်ယူသူများ လက်ရှိဝယ်နေကျ ဖေါက်သည်များမှာ နိုင်ငံတကာနှင့် နိုင်ငံစုံကုမ္ပဏီကြီးများနှင့် ပုဂ္ဂိုလ်အလိုက် ဝယ်ယူသူများ ဖြစ်သည်။ ကျွန်ုပ်တို့သည် အစားအသောက် အနံ့အရသာ ဖန်တီးခြင်းလုပ်ငန်း၊ အလှကုန်လုပ်ငန်း၊ ဆေးဝါးလုပ်ငန်းနှင့် အဖျော်ယမကာလုပ်ငန်းစသည့် ကမ္ဘာ့အရောင်းဈေးကွက်တွင် ဦးဆောင်ရောင်းချလျက်ရှိသော ကုမ္ပဏီကြီး ဖြစ်သည်။ လွန်ခဲ့သော ငါးနှစ်အတွင်း ကုမ္ပဏီ၏ ကုန်ထုတ်လုပ်မှုပမာဏကို ကြည့်လျှင် ကျွန်ုပ်တို့၏ စွမ်းရည်နှင့် ကမ္ဘာ့ဖောက်သည်များက မည်မျှယုံကြည်ကိုးစားမှုရှိသည်ကို ထင်ရှားစွာ သိရှိနိုင်ပါသည်။

(ဂ) များစွာသော လက်ရှိဖောက်သည်များသည် ပစ္စည်းသစ်နှင့် တန်ဖိုးမြှင့်ပစ္စည်းများကို ယင်းတို့၏ ကုန်စာရင်း၌ ထပ်မံဖြည့်စွက်ရောင်းချရန် ဆန္ဒပြင်းပြလျက်ရှိကြသော်လည်း ကျွန်ုပ်တို့၏ ပြည်တွင်းဈေးကွက်၌ ယင်းပစ္စည်းများရှားပါးလျက်ရှိသဖြင့် စားသုံးသူဖောက်သည်များ၏ဆန္ဒကို ဖြည့်ဆည်းခြင်း မပြုနိုင်သေးပါ။ အခွင့်ကောင်းကိုရယူနိုင်ခြင်း မရှိသေးပါ။

(ဃ) လွန်ခဲ့သော နှစ်ပေါင်း (၄၀) ခန့်မှစ၍ ကျွန်ုပ်တို့၏ တန်ဖိုးမြှင့်ပစ္စည်းအားလုံး (value added products) အရည်အသွေး အဆင့်မြင့်ပြီး မည်သည့်နိုင်ငံတကာ ပစ္စည်းကမျှ ကျွန်ုပ်တို့၏ အရည်အသွေး အဆင့်အတန်းကို မမှီပါ။ သို့ဖြစ်၍ ကျွန်ုပ်တို့၏ ပစ္စည်းသစ်များသည် ROI အရ ထပ်ဆင့်အကျိုးအမြတ်များ ခံစားရရှိနိုင်ပါသည်။

(င) ဤစနစ်တွင် လက်ရှိပြည်ပဈေးကွက်များရှိ နိုင်ငံတကာဖောက်သည်၊ နိုင်ငံစုံဖောက်သည်များနှင့်ဆက်သွယ်၍ လုပ်ငန်းသစ်များကို လုပ်ကိုင်ဆောင်ရွက်ရပါသည်။

(စ) ပြည်ပတင်ပို့ဈေးကွက်သစ်များ၊ ဖောက်သည်သစ်များနှင့် ဆက်သွယ်ရောင်းချနိုင်အောင် ပစ္စည်းရောင်းချရေး မဟာဗျူဟာသစ် ချမှတ်ရပါသည်။ လက်ရှိအချိန်တွင် အိန္ဒိယနိုင်ငံသည် ဟင်းခတ်ဆီမွှေး၊ ငရုတ်ဆီ/ငရုတ်နှင့် အခြားများရောင်းချရာ၌ ကမ္ဘာ့ဈေးကွက်ကို စိုးမိုးထားပါသည်။ ၄င်းတို့က ကျွန်ုပ်တို့၏ ကုန်ကြမ်းများကို ဝယ်ယူပြီး တန်ဖိုးမြှင့်ပစ္စည်းအဖြစ် ပြုပြင်ထုတ်လုပ်၍ မိမိဖောက်သည်များထံသို့ တင်ပို့ရောင်းချပါသည်။

HDDES Extracts (PVT) Ltd. သည် အရောင်းဈေးကွက် ကျယ်ပြန့်ရေးစီမံချက် ရေးဆွဲဆောင်ရွက်မည်ဖြစ်ရာ ကုမ္ပဏီသည် ယင်း၏ ကုန်ပစ္စည်းသစ်များနှင့် ပတ်သက်၍ ကုန်စည်ပြပွဲများတွင် ပါဝင်ပြသရန် ကုန်ပစ္စည်းသစ်များနှင့် ပတ်သက်သော ကွန်ဖရင့်များနှင့် ကမ္ဘာလုံးဆိုင်ရာ ပွဲတော်များသို့ ပါဝင်တက်ရောက်ရန် လိုအပ်ပါသည်။

(ဆ) ဂျာမနီနိုင်ငံရှိ ကျွန်ုပ်တို့၏ လက်အောက်ခံ ပစ္စည်းဖြန့်ဖြူးရေး ကုမ္ပဏီခွဲမှာ M/S D' Las International Germany GMBH ဖြစ်သည်။ ဂျာမနီဈေးကွက်သို့ သဘာဝကုန်ပစ္စည်းများ ထိုးဖောက်ဝင်ရောက်နိုင်ရေးသည် ကျွန်ုပ်တို့၏ အဓိကမဟာဗျူဟာတစ်ရပ် ဖြစ်သည်။

အထက်ဖော်ပြပါ ပစ္စည်းရောင်းချဖြန့်ဖြူးရေး မဟာဗျူဟာ ချမှတ်ထားသည့်အပြင် ဂျာမန်ဈေးကွက်တွင် သဘာဝတန်ဖိုးမြှင့်ပစ္စည်းများ ရောင်းချနိုင်သည့် အခွင့်အလမ်းကောင်းများ ရှိနေသည်ကို တွေ့ရှိရသည်။ သို့ဖြစ်၍ HDDES Extracts (Pvt) Ltd. သည် သီရိလင်္ကာကုမ္ပဏီ (Sri Lankan Company) အား မိမိကုမ္ပဏီလက်အောက်ခံ M/S D,Las International Germany GMBH အဖြစ် ဂျာမနီတွင် ဖွဲ့စည်းထားရှိခဲ့ပါသည်။ ဂျာမနီဈေးကွက်နှင့် အခြား စကင်ဒီနေးဗီယား (Scandinavian) ဈေးကွက်တွင် သဘာဝပစ္စည်းတန်ဖိုးဖြင့် ပစ္စည်းများတိုးမြှင့်ရောင်းချနိုင်ရန် အရည်အချင်းပြည့်ဝသော ဝန်ထမ်းများ ခန့်ထားပြီး ဖြစ်ပါသည်။ သို့ဖြစ်၍ ကျွန်ုပ်တို့ မျှော်မှန်းသည့် ကုန်အထွက် ပမာဏနှင့် ဈေးကွက်တွင် တိုးဝင်ရောင်းချနိုင်သည့် အရည်အသွေးပြည့်မီအောင် ကုန်ထုတ်လုပ်နိုင်ပါသည်။ ကျွန်ုပ်တို့ ယုံကြည်မှုအပြည့် ရှိပါသည်။ ထိုနည်းအတိုင်းပင် HDDES Natural Products (Myanmar) Ltd. ကလည်း သဘာဝ ကုန်ပစ္စည်းများကို အရောင်းမြှင့်တင်နိုင်မည် ဖြစ်ပါသည်။ ဤကုမ္ပဏီသည် ဂျာမနီနှင့် ဥရောပဈေးကွက်ကြီး တစ်ခုလုံးသို့ တိုးဝင်နိုင်မည့် ကျွန်ုပ်တို့၏ အနာဂတ်တံခါးပေါက် ဖြစ်ပါမည်။ ကျွန်ုပ်တို့သည် သမာရိုးကျ ကုန်ချောပစ္စည်းများနှင့် သဘာဝကုန်ချောပစ္စည်းများကို ဂျာမနီကုန်လှောင်ရုံတွင် ပြည့်စုံအောင် ဖြည့်ဆည်းထားရှိပါသည်။ ယခုအချိန်တွင် အရောင်းအဝယ်သွက်သည့် ယူကရိန်းဈေးကွက် (Ukrainian market) သို့ တင်သွင်းရောင်းချလျက်ရှိပါသည်။

အရေးအကြီးဆုံး ဦးစားပေးဆောင်ရွက်ရမည့်အချက်မှာ ကျွန်ုပ်တို့၏ သဘာဝကုန်ပစ္စည်းများကို တန်ဖိုးမြှင့် ပစ္စည်းများအဖြစ် ပြုပြင်ပြောင်းလဲ ထုတ်လုပ်နိုင်ရေးပင် ဖြစ်သည်။ ယင်းကြံဆတွေးခေါ်ချက်နှင့်အညီ ကုမ္ပဏီသည် လိုအပ်သည့် ကုန်များကို ခြံမြေသစ်တွင် စိုက်ပျိုး၍ ထွက်ရှိသော ပစ္စည်းများကို ကျွန်ုပ်တို့ လိုအပ်သည့် တန်ဖိုးမြှင့် ပစ္စည်းအဖြစ် ထုတ်လုပ်ရောင်းချနိုင်ရန် ဖြစ်ပါသည်။

ဝယ်ယူသုံးစွဲသူများနှင့် အစဉ်ထိတွေ့ဆက်သွယ်နေရန် အလွန်အရေးကြီးပါသည်။ M/S HDDES (Myanmar) Ltd. ကလည်း ကုန်ပစ္စည်းများကို ဝယ်ယူသူ သတ်မှတ်သည့်နေ့ရက်တွင် ကုန်ပစ္စည်းများကို အရောက် ပို့ပေးရန် လိုအပ်ပါသည်။ အသစ်ထုတ်လုပ်သည့် ကုန်ပစ္စည်းများနှင့် အရေးကြီးသတင်းအချက်အလက်များကို ဝယ်ယူသုံးစွဲသူများအား ရှင်းလင်းပြောကြားရန် လိုအပ်ပါသည်။

**HDDES NATURAL PRODUCTS (MYANMAR) LTD.**

**MARKETING PLAN**

## PRESENT OPERATION

HDDES Group been existed nearly 40 years in the manufacturing and exporting field as a leader in developing value added products from our natural organic resources to the Global market. At the start, the company was the leader in exporting very high quality cinnamon, conventional essential oil and other spices to the international market. During this period, the founder of the Company has seen the immense opportunities available in the global market for our natural resources in the form of value addition and with his vision the new Company of HDDES Extract (PVT) Ltd, been incorporated in the year 2001 as a diversification strategy.

The Company's main objective is to export value added and very high quality organic products to the global market, to earn foreign exchange to the Country, to develop modernize agricultural methods, creation of new job opportunities to the young talents, social uplift meant and the protection of the environment to reduce the emission levels.

Within the above objectives in mind, the company's Research and Development Team had identified the following new value added products in addition to the present products, for export to the various industries as food and beverage, cosmetics, pharmaceuticals and aromatherapy.

**New Main Products**

**Essential Oil Category**

- Ginger Oil
- Black Pepper Oil
- Chilli Oil
- Turmeric Oil
- Vanilla Natural Flavour and Extracts
- Morunga &Gotukola Leaves
- Jasmine Absolute

**Oleoresin Category**

Ginger Oleoresin
Black Pepper Oleoresin
Chile/Turmeric Oleoresin

**Production Facilities and Quality Standard**

The Company's main strength is its modernized and international standard production facilities in the Board of Investment Zone in Horana with the highly sophisticated laboratory, which is able to carry out any kind of tests relating to the product quality and safety, compatible to the international standard.

In addition, the company is having GMP and HACCP certification within the product quality management standard ISO 22000:2005 and ISO 9001: 2008 for food safety management standard.

**National Recognition by Various Institutions**

Many instances the company was recognised by the various institutions in Sri Lanka, for the contribution to the Sri Lankan economy by way of value addition. Very few awards in which the company was honoured were,

NCE Export Awards -2010 -Gold Award-Agriculture Value Added Sector-Large Category,

NCE Export Awards-2011 - Gold Award-Agriculture Value Added Sector- Large Category

NCE Export Awards-2012 - Gold Award-Agriculture Value Added Sector- Large Category

For the Company market plan, we are mainly focus on the following new products and some of the exiting products.

- Vanilla Natural Flavour and Extracts
- Black Pepper Oil and Oleoresin
- Chilli Oil and Oleoresin
- Ginger Oil and Oleoresin
- Turmeric Oil Oleoresin

## VANILLA and VANILLA EXTRACTS

### Market Potential

Vanilla is the second most expensive spice after saffron, because growing the vanilla seed pods is labour – intensive. Despite the expense, vanilla is highly valued for its flavour. Synthetic vanilla has been growing in popularity over the years. While the world trade is at around 2,000 tonnes of cured beans or approximately 50 tonnes vanilla extract, the demand for synthetic vanillin in 2010 was more than 50,000 tonnes a year. Globally, companies prefer the chemical alternative because it is cheaper.

Historically, any analysis of global vanilla demand tended to focus on North America, with the addition of some smaller volume off-take from Europe and Japan. However, the market is much more diverse now, with flavouring houses now spread into China and South America and a lot of demand coming out of developing markets in general. Some leading world analyst (Van der Walde) estimated that worldwide demand has already reached some 2,500-3,000 tonnes a year and this looks set to increase. "It's going to take a significant amount of vanilla production in all regions to start creating a surplus," he added.

In the case of China, vanilla is being used across the board – i.e. in food, tobacco and perfume products. China is a price sensitive market so many of its buyers favour vanilla from Papua New Guinea and Indonesia, both of which are lower cost options than Madagascar. Nevertheless, China does also have brand conscious buyers who specifically want Madagascar vanilla.

### Impact of German demand

One of these is that industry buyers in Germany have been aggressively purchasing green vanilla beans since the start of the Madagascar crop, giving some farmers a reason to still sell at high levels. Therefore, the demand from the German buyers should have impacted the higher prices in future time and in balance the demand and supply curve for the product.

### Current Market Price and Forecasted Market Price

World vanilla prices experienced a massive spike after a 2000 cyclone devastated much of the East Asia crop. The sudden drop in supply pushed vanilla prices to nearly US$ 400 to 500 per Kg and led to a rush of new market entrants hoping to take advantage of the lucrative crop. Too many farmers had the same idea, however, and the market quickly swung back into oversupply. By 2010, prices had dropped to as low as US$25 per Kg and there was worry about market collapse as farmers could barely earn enough to get by. Today, vanillas prices are surging upwards again due to drought, fungal attacks and low prices are driving many producers out of the market. Vanilla now sells for US$ 350 – US$ 400 per Kg, and there are concerns about hoarding and a lack of supply.

However, some analysts viewed such a low end projection for late 2016 as totally unrealistic on the basis that demand remains solid. "It's just not possible. Their views were that the price

of vanilla could eventually crash because it does tend to fall hard – like it did in 2004 when it went from USD500 to USD50 in a year – but this is not the same market at all, and there is a strong underlying demand. Further they are hoping to see an orderly decline of maybe 10-15% (this year) and then further declining into 2017 so everyone can manage the fall as opposed to a complete crash, which is a disaster for everybody – including the farmers," he said.

International vanilla traders are hopeful that prices of the spice could cease this year as Madagascar's 2016 crop is forecast to be good one.

It is felt that the ideal scenario would be for prices to decline to a level which remains high enough to maintain farmers' interest in cultivation the spice but is low enough to stimulate demand and discourage end users from reducing the percentage of vanilla in formulations or, where feasible ,seeking a full replacement for vanilla in their applications.

**International vanilla prices have reached excessively high levels this year and traders are hoping for a downward correction to a more realistic price point in future.**

**Alternative Products (Substitute Products)**

a) The genuine Vanilla 'Pod'
b) Product containing natural vanillin, but not derived from Vanilla Pod ( fermentation of ferulic acid in rice)
   This product is classified as natural identical and can be used in small quantities with flavours that conserve their natural flavour label
c) Vanilla products made using chemically synthesised vanillin

**New Demand Creation – Opened Up Of New World Opportunities**

Finally, the market will be affected by the demand for synthetic vanilla. Synthetic vanilla is now used in major of vanilla products and is significantly cheaper to produce than natural vanilla, though it lacks the same quality of flavour. The rising popularity of the synthetic product has been a major contributor to falling prices in the natural market. However, recent years have given rise to consumer concern over the chemicals used in synthetic vanilla and a desire for organic or pure products. How the growing "natural v. synthetic" debate plays out in the years to come will be a key market determinant.

But the traditional vanilla bean is starting to enjoy a renaissance, thanks to consumer demand for all-natural foods and beverages. Last year, a string of giant food companies, including General Mills, Hershey's, Kellogg's, and Nestlé, vowed to eliminate artificial flavours and other additives from many foods sold in the U.S.

There is a problem, however: World production of natural vanilla is tiny and has been falling in recent years. Less than 1% of vanilla flavour comes from actual vanilla orchids. With demand on the upswing, trade in the coveted flavour is out of balance.

Flavour companies are working feverishly to find additional sources of natural vanillin and launch initiatives to boost the quality and quantity of bean-derived vanilla. Suppliers such as Symrise, International Flavors & Fragrances (IFF), Solvay, and Borregaard are using their expertise along the full spectrum of natural to synthetic to help food makers arrive at the best vanilla flavour for each product.

Although consumer disdain for artificial ingredients has been building for years, credit—or blame—for last year's wave of "all natural" announcements goes to Nestlé, which in February 2015 was the first major brand to announce plans to eliminate artificial additives from chocolate candy sold in the U.S. The announcement upended the mass-market chocolate industry practice of adding synthetic vanillin to counter the bitterness of cocoa.

"When Nestlé announced it would go all-natural, that just opened the floodgates," observes John Leffingwell, head of flavour and fragrance market research firm Leffingwell & Associates. "Other brands weren't going to do anything until a major player pushed it. With Nestlé being the biggest in the world, everyone had to follow."

**New Major Threats - Possible 'Perfect Storm'**

Some analysts added: "It is possible that by 2017 there will have the perfect storm of a huge crop in Madagascar, increasing production in Uganda, Indonesia, India and Papua New Guinea. That is when you are going to hit your surplus and then there is the possibility of severe price decline, which often happens in vanilla. The reason for this is that when industrial buyers see the price going down they withdraw their requests for long term contracts and they buy short term. That automatically reduces demand." However, analysts stressed that the market is a long way removed from any such downturn in demand, with global off-take now much more widely spread than in the past, as indicated earlier.

They also cautioned that there are a number of uncontrollable factors that have yet to be determined.

These include the cyclone season in Madagascar and then the results in 2018 of the country's presidential elections. It also remains to be seen how actual production will pan out in alternative origins.

Industry participants will no doubt be closely monitoring how the market unfolds over the coming months, with particular attention on what price trends emerge.

**Black Pepper Oil and Oleoresin**

**Market Potential**

The black pepper market is directly influenced by the growing processed food industry. The rise in consumption of bakery products, confectionery products, and ready-to-eat and fried food in the developed economies is driving the market for the spice. The recent trend of using natural flavour enhancer has also catalyzed the growth of the global market. In the year 2013-

15, the global pepper consumption is estimated at around 400,000 tons and has been increasing steadily. Increasing demand from Far East countries, which have started using more pepper in cooking, has been quite significant in driving the global black pepper market. Growth in the cosmetics industry is also directly influencing the pepper market. Due to the antioxidant and antibacterial properties of black pepper, it is often included in skin care products.

As stated earlier, that the market is experiencing a major year on year increase in demand for black pepper. But unfortunately, this demand is not backed by adequate supply, which has proved to be a major restraint in this market. This is majorly due to the intensive crop losses in various parts of the world, especially in India & Brazil. Sudden climatic changes and untimely rainfall has significantly led to the fall in the yield of black pepper.

**Black Pepper Market: Segmentation**

The global black pepper market can be broadly segmented on the basis of type, end use and application. On the basis of type, the market can be further segmented into – organic and inorganic. Based on end use, the market can be segmented into bakery and confectionery products, frozen products, soups, sauces & dressing, beverages, meat & poultry products, snacks and convenience food, and others. Based of application, the black pepper market can be segmented into food & beverages, health care and personal care & cosmetics.

**Black Pepper Market: Region Wise Outlook**

Geographically, the global black pepper market is segmented into seven regions which are ; North America, Latin America, Western Europe, Eastern Europe, Japan, Asia Pacific excluding Japan (APEJ), and Middle East and Africa (MEA) and Japan.

Vietnam, followed by Brazil, India & Indonesia are the leading producer of black pepper in the year 2014 globally. India saw a fall in its average production in the same year. The leverage of large scale production and productivity helps Vietnam growers to offer world's lowest price tags.

In terms of export, Vietnam leads the market globally. U.S. market continues to be the largest importer of black pepper from Vietnam. While most markets like India, Saudi Arabia, Pakistan, Netherlands, Spain have seen an increase in their imports, except Germany. German market recorded a drop in imports from Vietnam. Thus, with a market share of approximately 50% per cent in the global market, Vietnam has been able dominate the market.

**International Market Prices and Volatility of Price**

Global black pepper prices more than tripled between 2009 and 2015, reaching record levels. The increase in price was attributed to dwindling stocks and surging demand in Southeast Asia, may have finally reached. After half a decade of price increases we might have finally hit the price ceiling pepper, prices are falling this year, with a firm intent to continue to drop. Vietnam is the main pepper producer and, along with Brazil and Indonesia, it is a major

